ပေါင်း – ဆုံ – ကြုံ – တွေ့ – ခြင်း – မိခြင်း၊ (၁) (က) ဇရာမရဏ၏အကြောင်းနှင့် ပညာ၏ – ပညာနှင့် ဇရာမရဏ၏ အကြောင်း၏ – ပေါင်း – ဆုံ – ခြင်း – မိခြင်း၊ – ဟုတ်မှန်သည့်အတိုင်း သိခြင်း၏ အစွမ်းအားဖြင့် – ပေါင်း – ဆုံ – ခြင်း – မိခြင်း။ (ခ) ပရိညေယျာဘိသမယ စသည်တို့၏ အစွမ်းအားဖြင့် ထိုးထွင်း၍သိခြင်း။ (ဂ) သစ္စာတရားတို့ကို – ရှေ့ရှုမျက်မှောက်အားဖြင့် – ကြုံ – တွေ့ – ခြင်း – ထိုးထွင်း၍သိခြင်း။ (၂) (က) ရခြင်း၊ ရှေ့ရှုမျက်မှောက်ရခြင်း။ (ခ) အထက်မဂ်ကို ရခြင်း။ (၃) လွန်ကဲသော ပယ်ခြင်း။ (၄) (က) ရှေ့ရှု မျက်မှောက်အဖြစ် အားဖြင့် ကောင်းစွာ သိတတ်သော ဉာဏ်၊ တရားတို့ကို ဟုတ်မှန်သည့်အတိုင်း သိတတ်သောဉာဏ်။ (ခ) ရှေ့ရှုမျက်မှောက် ကောင်းစွာ သိကြောင်း ဖြစ်သောဉာဏ်။ (၅) ရှေ့ရှုမျက်မှောက် – ဉာဏ်ဖြင့် – သိအပ်သောတရား၊ နိဗ္ဗာန်နှင့်တကွသော တရားတို့၏ မဖောက်မပြန်သော သဘော၊ ပရမတ္ထတရား။

(၁) (က) ယောနိသော မနသိကာရ အဟု ပညာယ အဘိသမယော။ ဒီ၊၂။၂၆။ သံ၊၁။၂၄၆၊၃၂၇။ ဗောဓိသတ္တဿ ပညာယ ယသ္မိံ သတိ ဇရာမရဏံ ဟောတိ၊ တေန ဇရာမရဏကာရဏေန သဒ္ဓိံ သမာဂမော အဟောသိ။ ဒီ၊ဋ္ဌ၊၂။၅၁။ ပညာယ သဒ္ဓိံ ဇရာမရဏကာရဏဿ အဘိသမယော သမဝါယော သမာယောဂေါ အဟောသိ။ သံ၊ဋ္ဌ၊၂။၂၀။ သမာဂမော အဟောသီတိ ယာထာဝတော ပဋိဝိဇ္ဈနဝသေန သင်္ဂမော (သမာဂမော။ သံ၊ဋီ။) အဟောသိ။ ဒီ၊ဋီ၊၂။၄၉။ သံ၊ဋီ၊၂။၂၃။ (ခ) သစ္စာနံ အဘိသမယော။ ထေရ၊၃၀၆။ ဒုက္ခာဒီနံ အရိယသစ္စာနံ ပရိညာဘိသမယာဒိဝသေန ပဋိဝေဓော။ ထေရ၊ဋ္ဌ၊၂။၂၁၀။ (ဂ) အဘိသမယောတိ ကေန အဘိသမေတိ? စိတ္တေန အဘိသမေတိ။ ကိံ ....နု တွေ့ကောယေဝ အဘိသမယောတိ။ ပဋိသံ၊၃၉၁။ အဘိသမယောတိ သစ္စာနံ အဘိမုခေန သမာဂမော၊ ပဋိဝေဓောတိ အတ္ထော။ ပဋိသံ၊ဋ္ဌ၊၂။၃၀၂။ ကေသိကာ အဘိသမယေ ဝိသေသိယ။ ဝိမာန၊၁၉။ အဘိသမယေ ဝိသေသိယာတိ သစ္စပဋိဝေဓဝသေန ဝိသေသံ ပတွာ။ "ဝိသေသိနီ"တိပိ ပဌန္တိ၊ အဘိသမယဟေတု ဝိသေသဝတီတိ အတ္ထော။ ဝိမာန၊ဋ္ဌ။၇၇။ ပဌမာဘိသမယ, ဓမ္မာဘိသမယ-တို့လည်း ကြည့်။ (၂) (က) အတ္ထာဘိသမယ-ကြည့်။ (ခ) အဘိသမယောတိ ဥပရိမဂ္ဂါဘိသမယော။ အနုဋီ၊၃။၁၉၀။

(၃) သမယနံ ဥပသမယနံ အပဂမောတိ သမယော၊ ပဟာနံ။ သမုစ္ဆေဒပ္ပဟာနဘာဝတော ပန အဓိကော သမယောတိ အဘိသမယော။ ဥဒါန၊ဋ္ဌ။၁၉။ မာနာဘိသမယ (မ၊၁။၅။ သံ၊၂။၄၀၀။ မ၊ဋ္ဌ၊၁။၉၀။ သံ၊ဋ္ဌ၊၃။၁၅။ ဝိ၊ဋ္ဌ၊၁။၇၀။ သာရတ္ထ၊၁။၁၉၇။ ဒီ၊ဋ္ဌ၊၁။၃၃။ မ၊ဋ္ဌ၊၁။၉။ သံ၊ဋ္ဌ၊၁။၉။ အံ၊ဋ္ဌ၊၁။၉။ အဘိ၊ဋ္ဌ၊၁။၁၀၀။ ခုဒ္ဒက၊ဋ္ဌ။၇၉။ ဥဒါန၊ဋ္ဌ။ ၁၇။), ဖဿာဘိသမယ (သုတ္တနိ၊ဋ္ဌ၊၂။၂၂၃) တို့လည်း ကြည့်။

(၄) (က) အဘိမုခဘာဝေန သမ္မာ ဧတိ ဂစ္ဆတိ ဗုဇ္ဈတီတိ အဘိသမယော၊ ဓမ္မာနံ ယထာဘူတသဘာဝါဝဗောဓော။ ဥဒါန၊ဋ္ဌ။ ၁၉။ သာရတ္ထ၊၁။၁၉၀။ ဒီ၊ဋီ၊၁။၄၅။ သီ၊ဋီ၊သစ်၊၁။၁၆၀။ မ၊ဋီ၊၁။၃၅။ သံ၊ဋီ၊၁။၃၁။ အံ၊ဋီ၊၁။၃၄။ အနုဋီ၊၁။၆၇။ ခုန်၊ဋီ။၇၇၀။ အဘိသမယဿာတိ ဉာဏဿ။ အနုဋီ၊၂။၆၁။ နောက်အနက်လည်း ကြည့်။ (ခ) ပဋိဝေဓောတိ အဘိသမယော။ ဝိ၊ဋ္ဌ၊၁။၁၀။ ဒီ၊ဋ္ဌ၊၁။၂၁။ အဘိ၊ဋ္ဌ၊၁။၂၃။ အဘိသမေတီတိ အဘိသမယော၊ အဘိသမေန္တိ ဧတေနာတိ

ဝါ အဘိသမယော။ သာရတ္ထ၊၁။၈၀။ (-သီ၊ဋီ၊သစ်၊၁။၁၀၇။ အနုဋီ၊၁။၂၃။) နောက် အနက်လည်း ကြည့်။

(၅) လောကုတ္တရမဂ္ဂက္ခဏေ ဒဿနာဘိသမယော သမ္မာဒိဋ္ဌိ၊ အမတောဂဓံ နိဗ္ဗာနံ ပရိယောသာနဋ္ဌေန အဘိသမယော။ ပဋိသံ။ ၃၉၃။ နိဗ္ဗာနံ အဘိသမီယတီတိ အဘိသမယော၊ ပဋိသံ၊ဋ္ဌ၊၂။၃၀၄။ အဘိမုခံ ဉာဏေန သမ္မာ ဧတဗ္ဗော အဘိသမေတဗ္ဗောတိ အဘိသမယော၊ ဓမ္မာနံ အဝိပရီတသဘာဝေါ။ ဥဒါန၊ဋ္ဌ။၁၉။ သာရတ္ထ၊၁။၁၉၈။ ဒီ၊ဋီ၊၁။၄၅။ သီ၊ဋီ၊သစ်၊၁။၁၆၈။ မ၊ဋီ၊၁။၃၅။ သံ၊ဋီ၊၁။၃၁။ အံ၊ဋီ၊၁။၃၄။ အနုဋီ၊၁။၆၇။ ဓာန်၊ဋီ။ ၇၇၈။ အဘိသမယဋ္ဌ-လည်း ကြည့်။

(အဘိသမယ အနက်ကို အကျဉ်းချုံးသော် (၁) ထိုးထွင်း၍ သိအပ်သောတရား။ (၂) ထိုးထွင်း၍ သိတတ်သော, သိကြောင်းဖြစ်သော တရား။ (၃) ထိုးထွင်း၍သိခြင်း-ဟူ၍ သုံးနက်သာ ရရာသည်။

ထိုတွင် ယင်းတို့ကို အရကောက်သော် လောကုတ္တရာအနေအားဖြင့် (၁) ထိုးထွင်း၍ သိအပ်သော တရားဟူသည် နိဗ္ဗာန်တည်း။ (၂) ထိုးထွင်း၍ သိတတ်သော, သိကြောင်းဖြစ်သော တရားဟူသည် မဂ်ဉာဏ်, ဖိုလ်ဉာဏ်, ယင်းဉာဏ်တို့နှင့် ယှဉ်သောစိတ်, စေတသိက်တရားတို့တည်း။ ဤ၌ လောကုတ္တရာဖြစ်သော မဂ္ဂင်, ဗောဇ္ဈင်, ဗိုလ်, ဣန္ဒြေ, သတိပဋ္ဌာန်, သမ္မပ္ပဓာန်, ဣဒ္ဓိပါဒ်, ဝိမောက္ခ, ဝိဇ္ဇာ, ဝိမုတ္တိ စသည်တို့ ပါဝင်သည်။

လောကီ အနေအားဖြင့်ကား (၁) ထိုးထွင်း၍သိအပ်သော တရားဟူသည် အဘိဉေယျ, ပရိညေယျ, ပဟာတဗ္ဗ ဖြစ်သော ခန္ဓာ, အာယတန, ဓာတ်, သစ္စာဟုဆိုအပ်သော မဖောက်မပြန် မှန်သော ပရမတ္ထတရားတို့တည်း။ (၂) ထိုးထွင်း၍ သိတတ်သော, သိကြောင်းဖြစ်သော တရားဟူသည် ဉာတပရိညာ, တီရဏပရိညာ, ပဟာနပရိညာ အစွမ်းအားဖြင့်သိတတ်သော, သိကြောင်းဖြစ်သော ဉာဏ်တို့တည်း။ ဤ၌လည်း လောကီဖြစ်သော မဂ္ဂင်, ဗောဇ္ဈင်, ဗိုလ်, ဣန္ဒြေ, သတိပဋ္ဌာန်, သမ္မပ္ပဓာန်, ဣဒ္ဓိပါဒ်စသည်တို့ ပါဝင်ရာသည်။ အကျယ်ကို ပဋိသံ။၃၉၁-၅။ ၎င်း-ဋ္ဌ၊၂။၃၀၂-၅။ မ၊ဋီ၊၁။၃၅။ အံ၊ဋီ၊၁။၃၄။ သာရတ္ထ၊၁။ ၁၉၈-တို့ ကြည့်။

(၃) ထိုးထွင်း၍ သိခြင်းဟူသည် အဘိဉေယျတရားတို့ကို ဉာတပရိညာကိစ္စအားဖြင့်၎င်း, ပရိညေယျတရားတို့ကို တီရဏပရိညာကိစ္စအားဖြင့်၎င်း, ပဟာတဗ္ဗ တရားတို့ကို ပဟာနပရိညာ ကိစ္စအားဖြင့်၎င်း, ဘာဝေတဗ္ဗတရားတို့ကို ဘာဝနာကိစ္စအားဖြင့်၎င်း, သစ္ဆိကာတဗ္ဗ တရားတို့ကို သစ္ဆိကရဏကိစ္စအားဖြင့်၎င်း ထိုးထွင်း၍ သိခြင်းဟု ဆိုအပ်သော ထိုးထွင်း၍ သိအပ်သော တရား၏ ထိုးထွင်း၍ သိတတ်သော, သိကြောင်းဖြစ်သော ဉာဏ်နှင့် ပေါင်းဆုံမိခြင်း (ဝါ) ထိုးထွင်း၍ သိအပ်သော တရားနှင့် ထိုးထွင်း၍ သိတတ်သော, သိကြောင်းဖြစ်သော ဉာဏ်၏ ပေါင်းဆုံမိခြင်းတည်း။ ပဋိသံ။၃၉၁-၅။ ဒီ၊ဋ္ဌ၊ ၂။၅၁။ သံ၊ဋ္ဌ၊၂။ ၂၀-တို့ ကြည့်။

ထို့ပြင် အဆိုတမျိုး ရှိသေး၏၊ ယင်းအဆိုကား "ထိုးထွင်း၍သိခြင်း, သိတတ်သော ဉာဏ်သည် အဘိသမယတည်း၊ ၎င်းသည် လောကီအဘိသမယ, လောကုတ္တရာ အဘိသမယ-ဟူ၍ နှစ်ပါး အပြားရှိ၏။ ထိုတွင် အာရုံပြုသောအားဖြင့် အကျိုးစသည်အား လျော်စွာ အကြောင်း စသည်တို့၌ သိခြင်း, သိတတ်သော ဉာဏ်မည်သည် အဝိဇ္ဇာစသော အကြောင်း, သင်္ခါရစသောအကျိုး ထိုနှစ်ပါး လုံးကို သိစေတတ်သော သဒ္ဒပညတ်–နာမပညတ်–လျှင် အာရုံရှိသော လောကီအဘိသမယတည်း။ မတွေမဝေသော အားဖြင့်

အကျိုးစသည်အား လျော်စွာ အကြောင်းစသည်တို့၌ သိခြင်း, သိတတ်သော ဉာဏ်မည်သည် နိဗ္ဗာန်လျှင် အာရုံရှိသော မဂ်နှင့်ယှဉ်သော ဆိုအပ်ပြီးသော အကြောင်း, အကျိုး, ပညတ်တို့၌ ပြင်းပြသော တွေဝေခြင်းကို ဖျက်ဆီးတတ်သော လောကုတ္တရာ-အဘိသမယတည်း''ဟူ၍ ဖြစ်သည်။ အဘိ၊ဋ္ဌ၊၁။၂၃။ သာရတ္ထ၊၁။ဂ၀။ သီ၊ဋ္ဌီ၊သစ်၊၁။၁၀၇။ မူလဋ္ဌီ၊၁။၂၁-ကြည့်။)

**အဘိသမယကထာ** (ထီ) [အဘိသမယ+ကထာ] အဘိသမယကိုပြဆိုရာစကားရပ်။ ပဋိသမ္ဘိဒါ-မဂ္ဂပါဠိ၊ ၃-ဝဂ်၊ ၃-ကထာ။ ပဋိသံ၊၃၉၁-၅။ အဘိသမယံ ဒဿေန္တေန ကထိတာယ အဘိ-သမယကထာယ အပုဗ္ဗတ္ထာနုဝဏ္ဏနာ။ ပဋိသံ၊ဋ္ဌ၊၂။၃၀၂။

**အဘိသမယကရဏူပါယ**(ပု)[အဘိသမယ+ကရဏ+ဥပါယ] သစ္စာလေးပါးကို ထိုးထွင်း၍ သိခြင်းကို ပြုခြင်း၏အကြောင်း။ ဣဒါနိ အဘိသမယကရဏူပါယံ ဒဿေန္တော။ ဗုဒ္ဓဝံ၊ဋ္ဌ။၂၃၀။

**အဘိသမယကာလ** (ပု) [အဘိသမယ+ကာလ] သစ္စာလေးပါးကို ထိုးထွင်း၍ သိရာ–ကာလ–ခဏ။ ယာနိ ဝုတ္တာနိ အဘိသမယကာလေ။ သစ္စာဘိသမယကာလံ ဟိ ဧတေသု စတူသု ဉာဏေသု။ ဝိသုဒ္ဓိ၊၂။၃၃၁။ စတုန္နံ အရိယ-သစ္စာနံ ပဋိဝိဇ္ဈနက္ခဏေ။ ဝိသုဒ္ဓိ၊ဋ္ဌီ၊၂။၅၀၃။

**အဘိသမယကိစ္စ** ( န ) [ အဘိသမယ + ကိစ္စ ] ထိုးထွင်း၍သိခြင်းကိစ္စ။ ယောဂိနော အန-ဘိသမေတာနံ စတုန္နံ အရိယသစ္စာနံ အဘိ-သမယကိစ္စဿ ဥပ္ပါဒကာလော။ မ၊ဋ္ဌ၊၂။၆၃။

**အဘိသမယဇာတိယ** (တိ) [အဘိသမယဇာတိ+ဣယ] သစ္စာ ၄-ပါးကို ထိုးထွင်း၍ သိတတ်သော ဉာဏ်မျိုး– အဘိသမယ ဇာတ်–နှင့်သက်ဆိုင်–၌ ပါဝင်–သော။ ကိံ ပနဿ ပစ္ဆိမေ ဘဝေ အဘိသမယဇာတိယံ မဂ္ဂံ အာရဗ္ဘ သတိသမ္ဘောသော ဟောဿတိ။ မိလိန္ဒ။၂၇၀။

**အဘိသမယဉာဏ** (န) [ အဘိသမယ+ဉာဏ ] သစ္စာလေးပါးတို့ကို တပြိုင်နက် သိသော ဉာဏ်၊ အဘိသမယဉာဏ်။ ကတမံ အဘိသမ-ယဉာဏံ။ လောကုတ္တရမဂ္ဂက္ခဏေ ဧကေန ဉာဏေန စတ္တာရိ သစ္စာနိ အပုဗ္ဗံ အစရိမံ အဘိသမေတိ၊ .... ဣဒံ အဘိသမယဉာဏံ။ ပဋိသံ၊ဋ္ဌ၊၁။၁၅၃။ အတ္တနော အဘိသမယဉာ-ဏဿ ပဝတ္တိအာကာရံ။ ဝိမာန၊ဋ္ဌ။၇၅။

**အဘိသမယဋ္ဌ** (ပု) [ အဘိသမယ + အတ္ထ ] (၁) ရှေ့ရှုမျက်မှောက်–ရှေးရှုတူရှု–အတူတကွ–ပေါင်း–ဆုံ–ခြင်း–မိခြင်း–ထိုးထွင်း၍ သိခြင်း–အနက်သဘော။ (၂) လောကီဉာဏ်ဖြင့်–ရောက်အပ်– သိအပ်–သော– ထိုးထွင်း၍ သိအပ်သော –အနက်သဘော။ (၃) ထိုးထွင်း၍ သိအပ်သော အနက်သဘော။ (၄) ပစ္စဝေက္ခဏာဉာဏ်ဖြင့်ကောင်းစွာ ရောက်အပ်သော –ဉာဏ်ဖြင့်ရအပ်သော– အနက်သဘော။ (၅) ထိုးထွင်း၍ သိတတ်သော – ပဋိဝေဓ–ဉာဏ်၏ အာရုံဖြစ်သော အနက်သဘော။ (၆) ထိုးထွင်း၍ သိတတ်သော–ပဋိဝေဓ–ဉာဏ်၏ ဖြစ်ပုံ အခြင်းအရာ။

(၁) ကတမေတိ သတ္တဟာကာရေဟိ တထော ဝိမောက္ခာ ကေနဋ္ဌေန ဟောန္တိ။ သ-မောဓာနဋ္ဌေန အဓိဂမနဋ္ဌေန ပဋိလာဘဋ္ဌေန ပဋိဝေဓဋ္ဌေန သစ္ဆိကိရိယဋ္ဌေန ဖဿနဋ္ဌေန အဘိသမယဋ္ဌေန။ ပဋိသံ။၂၆၁။ အဘိသမယ-ဋ္ဌေနာတိ အဘိမုခံ သမာဂမဋ္ဌေန။ တတ္ထ ''သမောဓာနဋ္ဌေနာ''တိ မူလပဒံ၊ သေသာနိ အဓိဂမဝေဝစနာနိ။ တသ္မာယေဝ ဟိ သဗ္ဗေ-သံ ဧကတော ဝိဿဇ္ဇနံ ကတံ။ ပဋိသံ၊ဋ္ဌ၊၂။ ၁၆၇။

(၂) ဖုသနဋ္ဌေန အဘိသမယဋ္ဌေန။ ပဋိသံ။ ၁၀၂။ အဘိသမယဋ္ဌေနာတိ လောကိယေန ဉာဏေန အဘိသမာဂန္တဗ္ဗဋ္ဌေန။ ပဋိသံ၊ဋ္ဌ၊၁။ ၂၉၆။ ဒုက္ခဿ ပီဠနဋ္ဌော....အဘိသမယဋ္ဌော။ ပဋိသံ။ ၂၉၆။

(၃) ဒုက္ခဿ....ဝိပရိဏာမဋ္ဌော အဘိသမယဋ္ဌောတိအာဒီသု ပဋိဝေဓော။ ဝိ၊ဋ္ဌ၊၁။ ၈၀။ ဒီ၊ဋ္ဌ၊၁။၃၃။ မ၊ဋ္ဌ၊၁။၉။ အံ၊ဋ္ဌ၊၁။၉။ အဘိ၊ဋ္ဌ၊ ၁။၁၀၀။ သံ၊ဋ္ဌ၊၁။၉။ ဝိသုဒ္ဓိ၊၂။ ၁၂၅။ အဘိသမေတဗ္ဗော ပဋိဝိဇ္ဈိတဗ္ဗောတိ အဘိသမယော၊ အဘိသမယောဝ အတ္ထော အဘိသမယဋ္ဌော၊ ပီဠနာဒီနိ။ တာနိ ဟိ အဘိသမေတဗ္ဗဘာဝေန ဧကီဘာဝံ ဉပနေတွာ အဘိသမယဋ္ဌောတိ ဝုတ္တာနိ။ သာရတ္ထ၊၁။ ၁၉၈။ ဒီ၊ဋီ၊၁။၄၄။ မ၊ဋီ၊၁။၃၄။ သံ၊ဋီ၊၁။ ၃၁။ အံ၊ဋီ၊၁။၃၃။ မူလဋီ၊၁။၆၀။

(၄) အဘိသမယဋ္ဌော အဘိညေယျော။ ပဋိသံ။ ၂၀။ အဘိသမယဋ္ဌောတိ ပစ္စဝေက္ခဏဉာဏေန အဘိသမာဂန္တဗ္ဗဋ္ဌော ဉာဏေန ပဋိလဘိတဗ္ဗဋ္ဌော ဝါ။ ပဋိလာဘောပိ ဟိ "အတ္ထာဘိသမယာ ဓီရော"တိအာဒီသု ဝိယ အဘိသမယောတိ ဝုစ္စတိ။ ပဋိသံ၊ဋ္ဌ၊၁။၉၆။

(၅) အဘိသမယဿ ဝါ ပဋိဝေဓဿ ဝိသယဘူတော အတ္ထော အဘိသမယဋ္ဌောတိ တာနေဝ တထာ ဧကန္တေန ဝုတ္တာနိ။ ဥဒါန၊ဋ္ဌ။၁၈။ အဘိသမယဿ ဝါ ပဋိဝေဓဿ ဝိသယဘူတော အတ္ထော အဘိသမယဋ္ဌောတိ တာနေဝ ပီဠနာဒီနိ အဘိသမယဿ ဝိသယဘာဝူပဂမနသာမညတော ဧကတ္တေန ဝုတ္တာနိ။ သာရတ္ထ၊၁။၁၉၈။ ဒီ၊ဋီ၊၁။၄၄။ မ၊ဋီ၊၁။ ၃၄။ သံ၊ဋီ၊၁။၃၁။ အံ၊ဋီ၊၁။၃၃။ မူလဋီ၊၁။ ၆၀။ အဘိသမယဋ္ဌောတိ အဘိသမေတဗ္ဗဋ္ဌော။ အဘိသမယဿ ဝါ ဝိသယဘူတော အတ္ထော အဘိသမယဋ္ဌော။ ဝိသုဒ္ဓိ၊ဋီ၊၂။ ၁၉၁။

(၆) အထ ဝါ အဘိသမယဿ ပဝတ္တိအာကာရော အဘိသမယဋ္ဌော။ သော စေတ္ထ အဘိသမေတဗ္ဗေန ပီဠနာဒိနာ ဒဿိတောတိ ဒဋ္ဌဗ္ဗော။ ဝိသုဒ္ဓိ၊ဋီ၊၂။၁၉၁။ မူလဋီ၊၂။၅၁။

**အဘိသမယဋ္ဌာန** (န) [ အဘိသမယ+ဌာန ] အဘိသမယ၏ – ဖြစ်ကြောင်း – ဖြစ်ရာ – ဌာန။ သုခဒုက္ခာဒီသု တီသု အဘိသမယဋ္ဌာနေသု။ မ၊ဋီ၊၂။၁၇၅။

**အဘိသမယဋ္ဌာနတာ** (ထီ) [အဘိသမယဋ္ဌာန+တာ] အဘိသမယဋ္ဌာန၏ အဖြစ်။ လောကုတ္တရာနိ အဓိမုစ္စနတာယ မဂ္ဂဉာဏဿ အဘိသမယဋ္ဌာနတာယ စ နိယ္ယာနိ ဟောန္တိ။ နေတ္တိ၊ဋ္ဌ။၅၁။

**အဘိသမယတ္ထ** (ပု) [အဘိသမယ+အတ္ထ]အဘိသမယဋ္ဌ-နှင့် အနက်အရ တူ။

**အဘိသမယန္တရာယ** (ပု) [ အဘိသမယ+အန္တရာယ] အဘိသမယ အန္တရာယ်။ အယံ မာရော ဣမံ မဟာသမာဂမံ ဒိသွာ အဘိသမယန္တရာယံ ကရိဿာမီတိ အန္တရန္တရေ မာရသေနံ ပေသေတွာ။ ဒီ၊ဋ္ဌ၊၂။၂၇၇။

**အဘိသမယန္တရာယကရ** ( တိ ) [ အဘိသမယန္တရာယ+ကရ] အဘိသမယ အန္တရာယ်ကို ပြုတတ်သော။ ဝေမေဝ ခေါ မဟာရာဇ အဇာနန္တေနပိ ကတံ ပါပံ အဘိသမယန္တရာယကရံ ဟောတိ။ မိလိန္ဒ။၂၄၀-၉။

**အဘိသမယပရိစ္ဆေဒ** ( ပု ) [ အဘိသမယ+ပရိစ္ဆေဒ ] အဘိသမယ အပိုင်း အခန်း။ (တရားထူးရခြင်းကို ပြဆိုသော အဘိသမယ အပိုင်းအခန်း သုံးမျိုးကို ဗုဒ္ဓဝံ၊ဋ္ဌ။၃၄၄-ကြည့်။) သွာယံ ကပ္ပပရိစ္ဆေဒေါ.... အဘိသမယပရိစ္ဆေဒေါ .... ပရိနိဗ္ဗာနပရိစ္ဆေဒေါတိ

....ဗာဝီသတိယာ ပရိစ္ဆေဒေဟိ ပရိစ္ဆိန္နော ဝဝတ္ထိတော။ ဗုဒ္ဓဝံ၊ဋ္ဌ။၃။

**အဘိသမယပ္ပတ္တ** ( တိ ) [ အဘိသမယ+ပတ္တ ] သစ္စာလေးပါးတရားကို ထိုးထွင်း၍ သိခြင်းသို့ရောက်သော၊ မဂ်ဖိုလ်သို့ရောက်သော၊သူ။ အဘိသမယပ္ပတ္တသတ္တာနံ ပရိစ္ဆေဒေါ နတ္ထိ။ သာရတ္ထ၊၁။၂၁၀။

**အဘိသမယပ္ပဘေဒ** (ပု) [အဘိသမယ+ပဘေဒ] အဘိသမယအပြား။ ဣဒါနိ အဘိသမယပ္ပဘေဒတော ( အဘိသမယပ္ပကာရတော၊ သာရတ္ထ။) အဘိသမယာကာရတော အာရမ္မဏတော သဘာဝတော စ ပါကဋ္ဌံ ကာတုံ။ သာရတ္ထ၊၁။၈၀။ သီ၊ဋီ၊သစ်၊၁။၁၀၇။ (ပါရာ၊ဂဏ္ဌိသစ်၊၁။၁၆၇-ဂ-လည်း ကြည့်။)

**အဘိသမယဘာဂ** (တိ) [အဘိသမယ+ဘာဂ] ထိုးထွင်း၍သိအပ်သော အဖို့ရှိသော။ အထ ဝါ အဘိညေယျေသု ဓမ္မေသု.... စတုဗ္ဗိဓာ အဘိသမယဘာဂါ ( ဓမ္မာ )။ ဣတိဝုတ်၊ဋ္ဌ။ ၇။ သာရတ္ထ၊၁။၃၁၆။ မ၊ဋီ၊၁။၃၉။ ဝိသုဒ္ဓိ၊ဋီ၊၁။၂၆၀။

**အဘိသမယဘာဂီ** (တိ) [အဘိသမယ+ဘာဂ +ဤ] သစ္စာလေးပါးတရားကို–ထိုးထွင်း၍ သိခြင်း အဖို့ ရှိသော – သိထိုက်သော၊သူ။ ယေဘုယျေန စ တာ ဒေဝတာ အဘိသမယဘာဂိနော။ ဒီ၊ဋီ၊၂။၂၄။ မ၊ဋီ၊၃။ ၃၃၅။ (အံ၊ဋီ၊၁။၂၀၉-လည်း ကြည့်။)

**အဘိသမယဘာဝ** ( ပု ) [အဘိသမယ+ဘာဝ] သစ္စာလေးပါးတရားကိုထိုးထွင်း၍ သိလတ္တံ့သည်၏ အဖြစ်။ အပရိမာဏာနံ သတ္တာနံ အဘိသမယဘာဝံ အဒ္ဒသ။ အံ၊ဋ္ဌ၊၂။၃၁။

**အဘိသမယဘူတ** (တိ) [ အဘိသမယ+ဘူတ ] အဘိသမယဖြစ်သော။....အဘိသမယဘူတာယ ဒုက္ခနိရောဓပ္ပတ္တိယာ ပဋိပဒတာ ဒဋ္ဌဗ္ဗာ။ အနုဋီ၊၂။၆၂။

**အဘိသမယလက္ခဏ** (နု)[အဘိသမယ+လက္ခဏ] အဘိသမယ လက္ခဏာ။“ဇဟာတိ ပါပက”န္တိ ဧတေန ပရိညာဘိသမယာဒယောပိ ဒဿိတာ အဘိသမယလက္ခဏေန ဧကလက္ခဏတ္တာ။ နေတ္တိ၊ဋ္ဌ။၁၈၉။

**အဘိသမယဝဂ္ဂ** (ပု) [အဘိသမယ+ဝဂ္ဂ] အဘိသမယဝဂ်။ သံယုတ္တနိကာယ၊ မဟာဝဂ္ဂသံယုတ္တပါဠိ၊ ၁၂-သံယုတ်၊ ၆-ဝဂ်။ သံ၊၃။ ၄၀၀-၄။

**အဘိသမယသံယုတ္တ** (နု)[အဘိသမယ+သံယုတ္တ] အဘိသမယသံယုတ်။ သံယုတ္တနိကာယ၊ နိဒါနဝဂ္ဂသံယုတ္တပါဠိ၊ ၂-သံယုတ်။ သံ၊၁။၃၅၂-၇။

**အဘိသမယသဒ္ဒ** ( ပု ) [ အဘိသမယ+သဒ္ဒ ] အဘိသမယသဒ္ဒါ။ သမဝါယေ ခဏေ ကာလေ....တိ ဂါထာဝဏ္ဏနာယံ အဘိသမယသဒ္ဒေါ ပဋိဝေဓတ္ထော ဝုတ္တော။ ပဋိသံ၊ဋ္ဌ၊၁။ ၂၉၇။ သမယသဒ္ဒေါ အတ္ထုဒ္ဓါရေ အဘိသမယသဒ္ဒေါ ဂဟဏေ ကာရဏံ ဝုတ္တနယေနေဝ ဝေဒိတဗ္ဗော။ ဥဒါန၊ဋ္ဌ။၁၉။ ဒီ၊ဋီ၊၁။၄၅။ မ၊ဋီ၊၁။၃၅။ သံ၊ဋီ၊၁။၃၂။ အံ၊ဋီ၊၁။၃၄။ (–သာရတ္ထ၊၁။၁၉၈။ ဝိမတိ၊၁။၄၀။ နိတိ၊ ဓာ။၁၄၁။ ဓာန်၊ဋီ။၇၇၈။)

**အဘိသမယသာမက** (တိ) [အဘိသမယ+သာမက။ ထိ-ဍ္ဍ—သာမိကာ] သစ္စာ ၄-ပါးကို ထိုးထွင်း၍ သိခြင်းကို ပြီးစေတတ်သော။ အဘိသမယသာမိကာယ စတုသစ္စဒေသနာယ သခေ်ပေနေဝ ဒေသိတတ္တာ။ မ၊ဋီ၊၃။ ၄၃။

**အဘိသမယဟေတု** (ပု) [အဘိသမယ+ဟေတု] သစ္စာ ၄-ပါးတရားကို ထိုးထွင်း၍ သိခြင်း၏ အကြောင်း။ ဧဝမေဝ ခေါ မဟာရာဇ တဿ တေန ဒေါသေန အဘိသမယဟေတု သမုစ္ဆိန္နော။ မိလိန္ဒ။၂၄၈။ အဘိသမယ (၁) (က) လည်း ကြည့်။

**အဘိသမယဟေတုဘာဝ** ( ပု ) [ အဘိသမယ-ဟေတု+ဘာဝ ] သစ္စာ ၄-ပါးတရားကို ထိုးထွင်း၍ သိခြင်း၏ အကြောင်း၏ အဖြစ်။ ဣဒံ ပန အညေသံ အဘိသမယဟေတုဘာဝေန ပစ္စေကဗုဒ္ဓဗောဓိသတ္တာဒီနံ ဒေသနာသာမတ္ထိယာဘာဝတော ဝုတ္တံ။ ဝိမတိ၊၁။ ၁၃၀။

**အဘိသမယာကာရ** ( ပု ) [ အဘိသမယ+အာကာရ] အဘိသမယ အခြင်းအရာ။ အဘိသမယပ္ပဘေဒ-ကြည့်။

**အဘိသမယာဓိကာရတ္တ** (နှ) [ အဘိသမယ + အဓိကာရတ္တ] အဘိသမယ – အရိယမဂ် – ၏ မှီရာ ဥပနိဿယ ဖြစ်ခြင်း။ ဝိပဿနာဝသေန ပန ဘိန္နာယေဝ ပဋိပဒါဘိညာယော ဣဓ ဒဋ္ဌဗ္ဗာ အဘိသမယာဓိကာရတ္တာ။ နေတ္တိ၊ ဝိ။၆၇။

**အဘိသမယာနုရူပ** (တိ)[အဘိသမယ+အနုရူပ] အဘိသမယအား လျော်သော။ အတ္တနာ အဓိဂတမဂ္ဂနယာနုရူပံ (အဘိသမယာနုရူပံ၊ သီ-မူကွဲ) ဥဒါနံယေဝ ဥဒါနေန္တေန။ သုတ္တနိ၊ ဋ္ဌ၊၁။၄၂။

**အဘိသမယာဘာဝ** ( ပု ) [အဘိသမယ + အဘာဝ] အဘိသမယ၏ မဖြစ်ခြင်း။ စိတ္တံ ဝိနာ အဘိသမယာဘာဝတော တထာ ဝိဿဇ္ဇနံ။ ပဋိသံ၊ဋ္ဌ၊၂။၃၀၃။

**အဘိသမာဂစ္ဆတိ** ( ကြိ ) [ အဘိ+သံ+အာ+ဂမု+အ+တိ] ပေါင်းဆုံ၏။ အဘိသမေတိ-ကြည့်။

**အဘိသမာဂတ** (တိ) [အဘိ+သံ+အာ+ဂမု+တ] ထိုးထွင်း၍ သိအပ်သော။ အဘိသမိတ-ကြည့်။

**အဘိသမာဂန္တဗ္ဗဋ္ဌ** (ပု)[အဘိသမာဂန္တဗ္ဗ+အတ္ထ] လောကီဉာဏ်,ပစ္စဝေက္ခဏာဉာဏ်ဖြင့်–ရောက်အပ် – ပေါင်းဆုံအပ် – သော – ထိုးထွင်း၍ သိအပ်သော – အနက်သဘော။ အဘိသမယဋ္ဌ(၂,၄) အနက် ကြည့်။

**အဘိသမာဂန္တွာ** (ကြိ၊ဝိ) [ အဘိ+သံ+အာ+ဂမု+တွာ] (က) အနီးသို့သွား၍၊ ချဉ်းကပ်၍။ (ခ) ရှေ့ရှုမျက်မှောက်ဉာဏ်ဖြင့် ဉေယျ တရားသို့ ကောင်းစွာရောက်၍၊ ဟုတ်တိုင်းမှန်စွာ သိ၍။ (ဂ)ပေါင်းဆုံ၍၊ ရှေ့ရှုမျက်မှောက်– ရှေးရှုတုရှု– အဖြစ်အားဖြင့် – အတူတကွ–ချဉ်းကပ်–ပေါင်းဆုံ–၍။(က) သမေစ္စာတိ....သမာဂန္တွာ အဘိသမာဂန္တွာ။ စူဠနိ။၇၃။ အဘိသမာဂန္တွာတိ သမိပံ ဂန္တွာ။ စူဠနိ၊ဋ္ဌ။၂၄။ (ခ) အဘိသမေစ္စ (မ၊ဋ္ဌ၊၂။ ၂၀၀။ မဋီ၊၂။၂၉၁။ အံ၊ဋ္ဌ၊၃။၃၀၂။ ခုဒ္ဒက၊ ဋ္ဌ။၂၀၁။ သုတ္တနိ၊ဋ္ဌ၊၁။၁၇၇။) (ဂ) အဘိသမ္ဘုန္တိ ပစ္စယေဟိ အဘိသမာဂန္တွာ ကတံ။ သံ၊ဋ္ဌ၊၃။၄၆။ ပစ္စယေဟိ အဘိသမာဂန္တွာ ကတန္တိ တဏှာဝိဇ္ဇာဒိပစ္စယေဟိ အဘိမုခဘာဝေန သမာဂန္တွာ သမေစ္စ နိဗ္ဗတ္တိတံ။ သံ၊ဋီ၊၂။၃၁၆။

**အဘိသမာစာရ** (ပု) [အဘိ+သမာစာရ]လွန်ကဲသော – ထူးသော – မြတ်သော – အကျင့်။ အဘိသမာစာရောတိ ဥတ္တမသမာစာရော။ ဝိသုဒ္ဓိ၊၁။၁၂။ သာရတ္ထ၊၂။၁၉၉။ အဓိကော သမာစာရော အဘိသမာစာရော။ ဝိသုဒ္ဓိ၊ဋီ၊၁။၃၁။ အဘိဝိသိဋ္ဌော ဥတ္တမော သမာစာရောတိ အဘိသမာစာရော။ သာရတ္ထ၊၃။၂၄၀။ အဘိသမာစာရိက-လည်း ကြည့်။

**အဘိသမာစာရိက** ( တိ ) [ အဘိသမာစာရ+ဣက] အာဘိသမာစာရိက-ကြည့်။

**အဘိသမာယောဂ** ( ပု ) [ အဘိ+သံ+အာ+ယုဇ+ဏ ] ယှဉ်စပ်ခြင်း၊ ပေါင်းဆုံခြင်း။ ဓမ္မာဘိသမယောတိ စတုသစ္စဓမ္မဿ ဉာဏေန သဒ္ဓိံ အဘိသမာယောဂေါ။ သံ၊ဋီ၊၂။၇။

**အဘိသမိတ** (တိ) [ အဘိ+သံ+ဣ+တ ] ထိုးထွင်း၍သိအပ်သော။ အမှာကံ အယျပုတ္တေန

ဓမ္မော အဘိသမိတော။ ဝိ၊၁။ ၂၇၁။ အမ္ဗာကံ အယျပုတ္တေန စတုသစ္စဓမ္မော ပဋိဝိဒ္ဓေါ။ ဝိ၊ ဋ္ဌ၊၂။၁၉၇။ ဓမ္မဒေသနံ သုတွာ ဓမ္မော အဘိသမိတော။ သံ၊၂။၈၇။ အဘိသမိတောတိ မဟာ ဉာဏေန စတုသစ္စဓမ္မော အဘိသမာဂတော၊ သောတာပန္နောသ္မိ ဇာတောတိ ကထေသိ။ သံ၊ဋ္ဌ၊၂။၂၈၃။ အဘိသမေတောတိ အဘိသမိတော၊ အယမေဝ ဝါ ပါဌော။ သံ၊ဋီ၊၂။၂၄၄။

**အဘိသမိတတ္တ** (န)[အဘိသမိတ+တ္တ] ထိုးထွင်း၍ သိပြီးသည်၏အဖြစ်။ ဓမ္မဿ သုတတ္တာ သစ္စာနဥ္စ အဘိသမိတတ္တာ။ ထေရီ၊ဋ္ဌ။၂၄၇။ စတုသစ္စဓမ္မာနံ ဝါ အဘိသမိတတ္တာ သမိတာဝီ။ သာရတ္ထ၊၁။၂၄၀။ ဝိသုဒ္ဓိ၊ဋီ၊၁။၂၃၇။ စတုသစ္စဓမ္မာနံ အဘိသမိတတ္တာ သမိတာဝီ။ ဝိမတိ၊၁။၅၂။

**အဘိသမိတဗ္ဗဘာဝ** (ပု)[အဘိသမိတဗ္ဗ+ဘာဝ] ထိုးထွင်း၍သိအပ်သည်၏အဖြစ်။ အဘိသမယဋ္ဌ (၃) အနက် (မူလဋီ၊၁။၆၀) ကြည့်။ အဘိသမေတဗ္ဗဘာဝ-လည်း ကြည့်။

**အဘိသမိတသစ္စ** (တိ) [အဘိသမိတ+သစ္စ] ထိုးထွင်း၍ သိအပ်ပြီးသော သစ္စာတရားရှိသော၊ သစ္စာတရားကို ထိုးထွင်း၍ သိပြီးသော၊သူ။ အဘိသမေတာဝီ.... (အဘိ၊ဋ္ဌ၊၃။ ၃၁၂)ကြည့်။

**အဘိသမိယမာန** (တိ) [အဘိ+သံ+ဣ+မာန] ထိုးထွင်း၍သိအပ်သော။ပတီယမာန(ဝိသုဒ္ဓိ၊ ဋီ၊၂။၂၃၃)ကြည့်။

**အဘိသမီယတိ** (ကမ္မ၊ကြိ) [အဘိ+သံ+ဣ+ ယ+တိ] ထိုးထွင်း၍သိအပ်၏။ အဘိသမယ (၅) အနက် (ပဋိသံ၊ဋ္ဌ၊၂။၃၀၄) ကြည့်။

**အဘိသမီဟိတ** (တိ) [အဘိ+သံ+ဤဟ+တ] ပြုလုပ်– အားထုတ်– အပ်သော။ ပကပ္ပိတ (သံ၊ဋီ၊၂။၃၁၆)ကြည့်။

**အဘိသမေက္ခ** (ကြိ၊ဝိ) [အဘိ+သံ+ဣက္ခ+ တွာ]ကြည့်ရှု၍။ တံ့ နေ၁ တ္တမေဝါဘိသမေက္ခ နာရဒ။ ဇာ၊၂။၁၀၂။ အဘိသမေက္ခာတိ ဒိသွာ။ ဇာ၊ဋ္ဌ၊၅။၄၁၈။

**အဘိသမေက္ခတိ** (ကြိ) [အဘိ+သံ+ဣက္ခ+ အ+တိ] ကြည့်ရှု၏။ ယံ တံ့ သုခေနာဘိသမေက္ခသေ မံ။ ဇာ၊၁။၂၀၆။ အဘိသမေက္ခသေ ပိယစက္ခူဟိ ဩလောကေသိ။ ဇာ၊ဋ္ဌ၊၄။၁၉။

**အဘိသမေစ္စ** (ကြိ၊ဝိ) [အဘိ+သံ+ဣ+တွာ] ဉာဏ်ဖြင့် ကပ်ရောက်၍၊ သိ၍၊ရှေ့ရှုမျက်မှောက်ဉာဏ်ဖြင့် ဟုတ်တိုင်းမှန်စွာ သိ၍။ ဘဂဝတော ဘာသိတံ အဘိသမေစ္စ အနုမောဒိ။ မ၊၁။၃၁၈။ အဘိသမေစ္စာတိ ဉာဏေန အဘိသမာဂန္တွာ၊ ဇာနိတွာတိ အတ္ထော။ မ၊ဋ္ဌ၊၂။၂၀၀။ အဘိသမာဂန္တွာတိ အဘိမုခဉာဏေန ဥဧ ယျ သမာဂန္တွာ ယာထာဝတော ဝိဒိတွာ၊ တေနာဟ "ဇာနိတွာ"တိ။ မ၊ဋီ၊၂။ ၂၁၉။ အရိယသစ္စံ ယထာဘူတံ အဘိသမေစ္စ။ သံ၊၃။၃၈၄။ သမ္မဒတ္ထံ အဘိသမေစ္စ။ အံ၊၃။ ၂၉၇။ သမ္မဒတ္ထံ အဘိသမေစ္စာတိ သမ္မာ သဘာဝတ္ထံ ဉာဏေန အဘိသမာဂန္တွာ။ အံ၊ ဋ္ဌ၊၃။၃၀၂။ ယန္တံ သန္တံ ပဒံ အဘိသမေစ္စ။ ခုဒ္ဒက။၁၀။ သုတ္တနိ။၃၀၀။ ခုဒ္ဒက၊ဋ္ဌ။၂၀၁။ သုတ္တနိ၊ဋ္ဌ၊၁။၁၇၈။ သမေစ္စ အဘိသမေစ္စ ဓမ္မံ။ မဟာနိ။၇၂။ ဉာဏေန သမာဂန္တွာ စတုသစ္စဓမ္မံ ပဋိဝိဇ္ဈိတွာ။ မဟာနိ၊ဋ္ဌ။၁၉၉။

**အဘိသမေတ** (တိ) [အဘိ+သံ+ဣ+တ] အဘိသမိတ-နှင့် အနက်အရတူ။ ၎င်း-ကြည့်။

**အဘိသမေတဗ္ဗ** (တိ) [အဘိ+သံ+ဣ+တဗ္ဗ] ထိုးထွင်း၍ သိအပ်သော။ ယေ ဒုက္ခာဒီနိ အဘိသမေန္တေဟိ အဘိသမေတဗ္ဗာ။ အဘိ၊ ဋ္ဌ၊၂။၇၈။ ဝိသုဒ္ဓိ၊၂။၁၂၅။ အရိယမဂ္ဂေန အဘိသမေတဗ္ဗစတုသစ္စဓမ္မေ ဌိတော။ သုတ္တ-

နိ၊၄၊၁။၃၀၇။ အဘိသမယ အနက်လည်း ကြည့်။

**အဘိသမေတဗ္ဗာဘာဝ** (ပု) [အဘိသမေတဗ္ဗ+ဘာဝ] ထိုးထွင်း၍ သိအပ်သည်၏ အဖြစ်။ တာနိ ဟိ အဘိသမေတဗ္ဗာဘာဝေန ဧကီဘာဝံ ဥပနေတွာ (အဘိသမယဋ္ဌောတိ၊ သာရတ္ထ။၁) ဝုတ္တာနိ။ ဥဒါန၊၄၊၁၈။ သာရတ္ထ၊၁။၁၉၈။ ဒီ၊ဋီ၊၁။၄၄။ အံ၊ဋီ၊၁။၃၃။

**အဘိသမေတာဝီ** (တိ) [အဘိ+သံ+ဣ+တာဝီ။ ထီ-၌ **အဘိသမေတာဝိနီ**] ပညာဖြင့် သစ္စာလေးပါးကို ထိုးထွင်း၍ သိပြီးသော၊သူ။ (က) သောတာပန်ပုဂ္ဂိုလ်။ (ခ) အထက်မဂ္ဂဋ္ဌာန်သုံးယောက်နှင့် ဖလဋ္ဌာန်ပုဂ္ဂိုလ်လေးယောက်၊ (သောတာပတ္တိမဂ္ဂါနန္တရ ဖိုလ်မှစ၍ ပစ္စိမစိတ်တိုင်အောင် သစ္စာလေးပါးတရားကို သိဘူးပြီးသည့် အဖြစ်သို့ ရောက်ကုန်ပြီးသော အထက်မဂ္ဂဋ္ဌာန်သုံးယောက်, ဖလဋ္ဌာန်ပုဂ္ဂိုလ် လေးယောက်။ ယမိုက်အကောက်၊ ဆဋ္ဌ။၂၂၂။) (က) သဒ္ဒေယျဝစသာ နာမ အာဂတဖလာ အဘိသမေတာဝိနီ ဝိညာတသာသနာ။ ဝိ၊၁။၂၈၇။ အဘိသမေတာဝိနီတိ ပဋိဝိဒ္ဓစတုသစ္စာ။ ဝိ၊ဋ္ဌ၊၂။၂၁၅။ ပဋိဝိဒ္ဓစတုသစ္စာတိ သောတာပတ္တိမဂ္ဂေန ပဋိဝိဒ္ဓစတုသစ္စာ။ သာရတ္ထ၊၂။၃၈၀။ အရိယသာဝကဿ ဒိဋ္ဌိသမ္ပန္နဿ ပုဂ္ဂလဿ အဘိသမေတာဝိနော။ သံ၊၁။၃၅၃။ သံ၊၃။၃၉၉။ အဘိသမေတာဝိနောတိ ပညာယ အရိယသစ္စာနိ အဘိသမေတွာ ဌိတဿ။ သံ၊ဋ္ဌ၊၂။၁၁၉။ အဘိသမေတွာတိ ပဋိဝိဇ္ဈိတွာ၊ တသ္မာ အဘိသမေတာဝိနော ပဋိဝိဒ္ဓသစ္စဿာတိ အတ္ထော။ သံ၊ဋီ၊၂။၁၂၇။ (ခ) အဘိသမေတာဝိနံ တေသံ ဒုက္ခသစ္စဥ္စ ဥပ္ပဇ္ဇတ္ထ၊ မဂ္ဂသစ္စဉ္စ ဥပ္ပဇ္ဇတ္ထ။ ယမက၊၁။၂၁၆။ အဘိသမေတာဝိနန္တိ အဘိသမိတသစ္စာနံ။ အဘိ၊ဋ္ဌ၊၃။၃၁၂။

**အဘိသမေတိ** (ကြိ) [အဘိ + သံ + ဣ + အ + တိ] (က) ချဉ်းကပ်၏၊ ရောက်၏၊ သိ၏၊ ဉာဏ်ဖြင့် ရှေ့ရှုမျက်မှောက်–ချဉ်းကပ်၏–ရောက်၏၊ ထိုးထွင်း၍သိ၏။ (ခ) ထိုးထွင်း၍ အထက်မဂ်သုံးပါးကို–သိ၏–ရ၏။ (ဂ) သစ္စာလေးပါးတရားကို ထိုးထွင်း၍ သိ၏။ (က) တံ တထာဂတော အဘိသမ္ဗုဇ္ဈတိ အဘိသမေတိ။ သံ၊၁။၂၆၄။ သံ၊၂။၁၁၃။ အံ၊၁။၂၈၉။ အဘိသမေတီတိ ဉာဏေန သမာဂစ္ဆတိ။ သံ၊ဋ္ဌ၊၂။၃၈။ ပဋိသံ၊ဋ္ဌ၊၁။၂၂၇။ အဘိသမေတီတိ အဘိမုခံ သမာဂစ္ဆတိ။ သံ၊ဋီ၊၂။၅၀။ အဘိသမေတီတိ ဉာဏေန အဘိသမာဂစ္ဆတိ။ အထ ဝါ .... အဘိသမေတိ အဘိမုခံ သမာဂစ္ဆတိ။ အံ၊၂။၂၁၇။ အဘိသမယောတိ ဧကေန အဘိသမေတိ၊ စိတ္တေန အဘိသမေတိ။ ပဋိသံ။၃၉၁။ အဘိသမေတိ အဘိမုခေါ ဟုတွာ သမာဂစ္ဆတိ၊ ပဋိဝိဇ္ဈတီတိ ဝုတ္တံ ဟောတိ။ ပဋိသံ၊ဋ္ဌ၊၂။၃၀၊ ။ ဒုက္ခံ အဘိသမေတီတိ ဒုက္ခံ ပဋိဝိဇ္ဈတိ။ အဘိဓမ္မာဝတာရဋီ၊ဟောင်း။၁၃၆။ အဘိသမေတီတိ အသမ္မောဟပဝသေန ပဋိဝိဇ္ဈတိ။ အဘိဓမ္မာဝတာရဋီ၊သစ်၊၂။၃၅၈။ (–မ၊ဋ္ဌ၊၁။၇၆။ မ၊ဋ္ဌ၊၂။၂၃၉။ သံ၊ဋ္ဌ၊၃။၁၆။ အံ၊ဋ္ဌ၊၂။၁၃၂။ အဘိ၊ဋ္ဌ၊၃။၆၀။ ဣတိဝုတ်၊ဋ္ဌ။၆၀။ ထေရ၊ဋ္ဌ၊၂။၁၆၃။ ပဋိသံ၊ဋ္ဌ၊၁။၁၁၄။ ဝိသုဒ္ဓိ၊၂။၃၃၁။) ဓမ္မံ အဘိသမေန္တိ (ဝိ၊ဋ္ဌ၊၁။ ၁၅၃) တိ ပဋိဝိဇ္ဈန္တိ။ သာရတ္ထ၊၁။၄၄၀။ ယထာဘူတံ အဘိသမေန္တိ။ သံ၊၃။၃၆၄။ နေတ္တိ၊ဋ္ဌ။၂၀၈။ မိလိန္ဒ။၂၅၆။ (ခ) ယဒိ စ သတ္တက္ခတ္တုပရမော အန္တရာ အဘိသမေယျ၊ ကောလံကောလော သိယာတိ။ မူလဋီ၊၃။ ၉၈။ (အနုဋီ၊၃။၁၃၅-လည်း ကြည့်။) (ဂ) ကောဋ္ဌသဟဿာဘိသမိံသု။ ဗုဒ္ဓဝံ။၃၂၉။ (–မိလိန္ဒ။၃၃၁။) ယထာဘူတံ အဘိသမေသုံ။ သံ၊၃။၃၆၄။ အဘိသမေဿသိ။ သံ၊၃။၃၇၅။ အံ၊ဋ္ဌ၊၂။၈၉။ အဘိ၊ဋ္ဌ၊၂။၁၄၃။ အဘိ၊ဋ္ဌ၊၃။၆၀။ မဟာနိ၊ဋ္ဌ။၁၉၅။ ပဋိသံ၊

ဋ္ဌ၊၁။၃၃၉။ ဝိသုဒ္ဓိ၊၂။၁၇၇။ **အဘိသမေဿန္တိ**။ သံ၊၃။၃၆၄-၅၊၃၇၅။

**အဘိသမေတုံ** (ကြိ၊ဝိ) [အဘိ + သံ+ဣ+တုံ] (က) ထိုးထွင်း၍ သိခြင်းငှါ။ (ခ) အထက်မဂ်သုံးပါးကို–ထိုးထွင်း၍–သိခြင်း–ရခြင်း–ငှါ။ (က) အဘိသမေတုံ န ဒေတိ။ အဘိ၊ဋ္ဌ၊၂။၁၃၂။ ဘဗ္ဗော သော ဓမ္မံ အဘိသမေတုံ၊ အဘိ၊ဋ္ဌ၊၃။၁၇၅။ (ခ) န ပန အန္တရာ အဘိသမေတုံ ဘဗ္ဗတာ ဝုတ္တာ။ မူလဋီ၊၃။၉၈။

**အဘိသမေတု** (တိ) [အဘိ+သံ+ဣ+တု] ထိုးထွင်း၍သိသော၊သူ။ တသ္မိံ အဘိသမယေ ဝတ္တမာနေ အဘိသမေတာ (အဘိသမေတော၊ က) ပုဂ္ဂလော ကေန ဓမ္မေန သစ္စာနိ အဘိသမေတိ။ ပဋိသံ၊ဋ္ဌ၊၂။၃၀၃။ ဓမ္မံ အဘိသမေတာရော။ မ၊ဋ္ဌ၊၁။၁၉၇။

**အဘိသမေတွာ** (ကြိ၊ဝိ) [အဘိ+သံ+ဣ+တွာ] ထိုးထွင်း၍ သိ၍။ အဘိသမ္ဗုဇ္ဈိတွာ အဘိသမေတွာ အာစိက္ခတိ။ သံ၊၁။၂၆၄။ အံ၊၁။၂၇၉။ ဒုက္ခံ ပရိညာဘိသမယေန အဘိသမေတွာ။ ပဋိသံ၊ဋ္ဌ၊၂။၆၅။ ပရိညာပဟာနာဘိသမယေဟိ အဘိသမေတွာ ပဇဟေယျ။ ဇာ၊ဋ္ဌ၊၃။၄၂၇။ (–သံ၊ဋ္ဌ၊၂။၁၁၉) အဘိသမေတွာတိ ပဋိဝိဇ္ဈိတွာ။ သံ၊ဋီ၊၂။၁၂၇။

**အဘိသမေန္တ** (တိ) [အဘိ+သံ+ဣ+အန္တ] ထိုးထွင်း၍ သိသော၊သူ။ ဓမ္မံ အဘိသမေန္တဿ။ အပ၊၂။၇၂။ နိရောဓသစ္စံ သစ္ဆိကိရိယာဘိသမယဝသေန အဘိသမေန္တေန။ ဥဒါန၊ဋ္ဌ၊၃၅၆။ (–အဘိ၊ဋ္ဌ၊၂။၇၀။ ဣတိဝုတ်၊ဋ္ဌ၊၁၆၇။ နေတ္တိ၊ဋ္ဌ၊၉။ ဝိသုဒ္ဓိ၊၂။၁၂၅။ မ၊ဋီ၊၃။၆၉။ အံ၊ဋီ၊၃။၂၉၀။)

**အဘိသမေန္တိ** (ကြိ) [အဘိ+သံ+ဣ+အန္တိ] ထိုးထွင်း၍သိကုန်၏။ အဘိသမေတိ-ကြည့်။

**အဘိသမေယျ** (ကြိ) [အဘိ+သံ+ဣ+ယျေ] ထိုးထွင်း၍သိ–ရာ၏–ငြားအံ့။ အဘိသမေတိ-ကြည့်။

**အဘိသမေဿတိ** (ကြိ) [အဘိ + သံ + ဣ + ဿတိ] ထိုးထွင်း၍ သိလတ္တံ့။ အဘိသမေတိ-ကြည့်။

**အဘိသမေဿန္တိ** (ကြိ) [အဘိ+သံ+ဣ+ဿန္တိ] ထိုးထွင်း၍ သိကုန်လတ္တံ့။ အဘိသမေတိ-ကြည့်။

**အဘိသမေသုံ** (ကြိ) [အဘိ+သံ+ဣ+ဥံ] ထိုးထွင်း၍သိကုန်ပြီ။ အဘိသမေတိ-ကြည့်။

**အဘိသမ္ပရာယ** (ပု) [အဘိ + သံ + ပရ + ဏယ+အ။ ကမ္မဝသေန အဘိမုခေါ သမ္ပရေတိ ဧတ္ထာတိ အဘိသမ္ပရာယော၊ ပရလောကော။ ဒီ၊ဋီ၊၁။၁၄၉။ ပရလောကော စ ကမ္မဝသေန အဘိမုခေါ သမ္ပရေတိ ဂစ္ဆတိ ပဝတ္တတိ ဧတ္ထာတိ အဘိသမ္ပရာယော။ .... အင်္ဂါယ ပရေန္တီတိအာဒီသု ဝိယ ဟိ စုရာဒိဂဏိကဝသေန ပရ-သဒ္ဒံ ဂတိယံ ဣစ္ဆန္တိ သဒ္ဒဝိဒူ။ သီ၊ဋီ၊သစ်၊၁။၄၀၅။ အဘိသမ္ပရာယ, ပုလ္လိင်,(ဣ-ခေတ်) Futurity Lalit. ဝိလျ။ ၇၃။ အဘိသမ္ပရာယး (ပု) ဘဝိဗျဒ် (ဟိန္ဒီ) ကောဿုဘာ။] (၁) တမလွန်–နောက်–နောင်–ဘဝ၊တမလွန်–တပါးသော–လောက၊ ဘဝသစ်။ (၂) တမလွန်ဘဝ၌ဖြစ်ခြင်း။ (က) ကံ၏ အစွမ်းအားဖြင့် တမလွန်ဘဝ၌ ဖြစ်ခြင်း၊ ဆည်းပူးအပ်သောကံ၏ အစွမ်းအားဖြင့် သေပြီးသည့်နောက် တမလွန်ဘဝဝယ် ဂတိငါးပါးတို့တွင် တပါးပါးသောဂတိ၌ ဖြစ်ခြင်း၊ (ဉာဏာဘိသမ္ပရာယ-ကို ထောက်၍ ကမ္မာဘိသမ္ပရာယ-ဟု ခေါ်နိုင်သည်။) (ခ) ဉာဏ်နှင့်တကွသော တမလွန်ဘဝ၌ ဖြစ်ခြင်း၊ တမလွန်ဘဝ၌–ဉာဏ်နှင့်တကွဖြစ်ခြင်း–မဂ်ဉာဏ်တို့ကိုရခြင်း။ (ဤလူ့ဘုံက အောက်မဂ်တပါးပါး ရသွားသောပုဂ္ဂိုလ်သည် တမလွန်ဘဝ၌ ပိုင်းခြား ထားအပ်သော ကာလအတွင်းရသင့်သောအထက်မဂ်တို့ကို ရသည်။ အဘိ၊ပု။၁၁၈-၉-ကြည့်။) (၃) တမလွန်ဘဝ

၌ – ရောက်အပ် – ရအပ် – သော – အရာ – ဌာန၊ (ဘဝဂတိ, ဉာဏဂတိ, ထူးခြားချက်, အခြေအနေ စသည်)။ (က) မင်္ဂနှင့်ယှဉ်သော ပုဂ္ဂိုလ်တို့ တမလွန်ဘဝ၌–ရောက်အပ်–ရအပ် –သော – ဂတိဝိသေသ – မင်္ဂဉာဏ်ဟူသော တရားထူး။ (ဤလူ့ဘုံက အောက်မင်္ဂတပါး ပါး ရသွားသော ပုဂ္ဂိုလ်တို့ တမလွန်ဘဝ၌ ရအပ်သော အထက်မင်္ဂတပါးပါး။ အဘိ၊ပု၊ ၁၁၈-၉-ကြည့်။) (ခ)တမလွန်ဘဝ၌ – ရောက် အပ် – ရအပ် – သော ဥပပတ် ပဋိသန္ဓေနေ ရခြင်းစသော ထူးခြားချက်၊ မင်္ဂဉာဏ်ရခြင်း ထိုမင်္ဂဉာဏ်ရခြင်း အစွမ်းအားဖြင့် တမလွန် ဘဝ၌ အရိယာပုဂ္ဂိုလ်၏ ဥပပတ် ပဋိသန္ဓေ နေရခြင်းစသောထူးခြားချက်။ (ဤလူ့ဘုံက အနာဂါမိမင်္ဂ ရသွားသော အရိယာပုဂ္ဂိုလ် သည် ဥပပတ်ပဋိသန္ဓေအားဖြင့် သုဒ္ဓါဝါသဘုံ သို့ ရောက်၍ ဤလူ့ဘုံသို့ ပဋိသန္ဓေအားဖြင့် မလာတော့ပဲ ထိုဘုံ၌ပင် ပရိနိဗ္ဗာန်ပြုသည်၊ သကဒါဂါမိမင်္ဂ ရသွားသော အရိယာပုဂ္ဂိုလ် သည် ဤလူ့ဘုံသို့ ပဋိသန္ဓေအားဖြင့် တကြိမ် သာလာ၍ ဘဝဇာတ်ဆုံးရာသို့ ရောက်သွား သည်၊ သောတာပတ္တိမင်္ဂရသွားသောအရိယာ ပုဂ္ဂိုလ်သည် အပါယ်ကျခြင်းမှ ကင်းသည်၊ မဂ္ဂနိယာမအားဖြင့် မြဲသည်၊ ရပြီးသောမင်္ဂ လျှင် မှီရာအထောက်အပံ့ရှိ၍ အထက်မင်္ဂသုံး ပါးလျှင် ဧကန်ရလတ္တံ့သော အလားအလာ အားကိုးရာရှိသည်၊ အရှည်ဆုံးကာလ အပိုင်း အခြားအားဖြင့် လူ့ပြည် နတ်ပြည် ခုနစ်ဘဝ ကျင်လည်၍ နိဗ္ဗာန်သို့ဝင်စံသည်၊ ဤသည်တို့ ကား ဤလူ့ဘုံက အောက်မင်္ဂရသွားသော အရိယာပုဂ္ဂိုလ်တို့၏ ထူးခြားချက်တို့တည်း။) အဘိ၊ပု။၁၁၈-၉။ အဘိ၊ဋ္ဌ၊၃။၄၆-၉။ မူလဋီ၊ ၃။၃၇-၈-တို့ ကြည့်။ (ဂ) တမလွန်ဘဝ၌ – ရောက်အပ် – ရအပ် – သော အခြေအနေ၊ ဘဝဆက် ဖြစ်နေခြင်းနှင့် ဘဝ ချုပ်ငြိမ်း သွားခြင်း ဟူသော အခြေအနေ။ (၁)

ဒိဋ္ဌေ စေဝ ဓမ္မေ အညမညံ ပဋိတ့ံ အဘိသ- မ္ပရာယဥ္စ အညမညံ ပဋိတ့ံ။ အံ၊၁။၃၇၃။ အဘိသမ္ပရာယဥ္စာတိ ပရလောကေ စ။ အံ၊ ဋ္ဌ၊၂။၃၁၁။ တတောနိဒါနံ ပုရိသံ ဒုက္ခဝေ- ဒနိယာ အာသဝါ အဿဝေယျုံ အဘိသမ္ပ- ရာယန္တိ။ အံ၊၁။၅၁၇။ အဘိသမ္ပရာယန္တိ ဒုတိယေ အတ္တဘာဝေ။ အံ၊ဋ္ဌ၊၂။၃၆၇။ အဘိသမ္ပရာယဥ္စ အတ္တာနံ သစ္စတော ထေ- တတော န ပညပေတိ။ အဘိ၊ပု။၁၄၃။ အဘိသမ္ပရာယဥ္စာတိ အပရသ္မိံ အတ္တဘာ- ဝေ။ အဘိ၊ဋ္ဌ၊၃။၇၁။ ကာယဿ ဘေဒါ အဘိသမ္ပရာယံ။ ပေတ။၁၇၅။ အဘိသမ္ပရာ- ယန္တိ ပုနဗ္ဘဝေ။ ပေတ၊ဋ္ဌ။၁၇၅။ (–အံ၊ဋ္ဌ၊ ၁။၃၀၀။ သုတ္တနိ၊ဋ္ဌ၊၂။၅၅။ ဝိမာန၊ဋ္ဌ။၃၀၉။ နေတ္တိ၊ဋ္ဌ။၁၉၀။) (၂) (က) တဿ ကာ ဂတိ၊ ကော အဘိသမ္ပရာယော။ မ၊၂။၅၀။ ကာ ဂတီတိ ကာ နိပ္ဖတ္တိ။ အဘိသမ္ပရာယော- တိ အဘိသမ္ပရာယမှိ ကတ္ထ နိဗ္ဗတ္တိ။ မ၊ဋ္ဌ၊၃။ ၇၁။ ဂမနံ နိပ္ဖဇ္ဇနံ ဂတိ .... ဝိပါကဓမ္မပ္ပ- ဝတ္တိ။ ကတူပစိတကမ္မဝသေန အဘိသမ္ပရေတိ ဧတ္ထာတိ အဘိသမ္ပရာယော၊ ပရလောကော၊ တတ္ထဿ စ နိပ္ဖတ္တိ ပုစ္ဆတီတိ အာဟ "အဘိ- သမ္ပရာယောတိ အဘိသမ္ပရာယမှိ ကတ္ထ နိဗ္ဗတ္တိ"တိ။ မ၊ဋီ၊၃။၄၄။ (–ဓမ္မ၊ဋ္ဌ၊၂။၂၀၆။ ဣတိဝုတ်၊ဋ္ဌ။၂၆၆။ ထေရ၊ဋ္ဌ၊၂။၄၅၇။ သာ- ရတ္ထ၊၁။၄၁၆။ သာရတ္ထ၊၃။၄၁၈။ ဝိမတိ၊၂။ ၂၅၅။ မ၊ဋီ၊၂။၁၂၈။) (၂) (ခ) တဿ ကာ ဂတိ၊ ကော အဘိသမ္ပရာယော။ ဝိ၊၃။၄၀၇။ ဒီ၊၂။၇၈။ မ၊၃။၂၉၀။ သံ၊၂။၂၈၄။ ပဋိသံ၊ဋ္ဌ၊ ၂။၇၅။ အဘိသမ္ပရာယောတိ ဉာဏာဘိသမ္ပ- ရာယော ဉာဏသဟိတော ပေစ္စဘာဝေါ။ သာရတ္ထ၊၃။၃၄၀။ (၃) (က) အဘိသမ္ပရာ- ယောတိ "သကိဒေဝ ဣမံ လောကံ အာဂန္တွာ ဒုက္ခဿန္တံ ကရေတီ"တိ အာဒိနာ ဝုတ္တော ဉာဏာဘိသမ္ပရာယော၊ မဂ္ဂဉာဏယုတ္တောဟိ ဂန္တဗ္ဗဂတိဝိသေသောတိ အတ္ထော။ ဝိမတိ၊၂။

၁၉၉။ (ခ) ဂတိန္တိ ဉာဏဂတိံ၊ အဘိသမ္ပရာယန္တိ ဉာဏာဘိသမ္ပရာယမေဝ။ ဒီ၊ဋ္ဌ၊၂။၂၃၀။ ဉာဏဂတီတိ.... မဂ္ဂဉာဏဂမနံ။ ယသ္မာ တဿာ ဝေ ဉာဏဂတိယာ ဝသေန တဿ တဿ အရိယပုဂ္ဂလဿ ဩပပါတိကတာဒိဝိသေသော၊ တသ္မာ တံ တာဒိသံ တဿ အဘိသမ္ပရာယံ သန္ဓာယာဟ "ဉာဏာဘိသမ္ပရာယမေဝါ"တိ။ ဒီ၊ဋီ၊၂။၂၀၄။ (ဂ) တဿ ကာ ဂတိ၊ ကော အဘိသမ္ပရာယော။ ဥဒါန။ ၈၆။ အဘိသမ္ပရာယောတိ ပေစ္စ ဘဝုပ္ပတ္တိ, ဘဝနိရောဓော ဝါ။ ဥဒါန၊ဋ္ဌ။၈၆။

**အဘိသမ္ပရေတိ** (ကြိ) [အဘိ+သံ+ပရ+ဏေ+တိ] ရှေးရှု – တူရှု – သွား၏ – ဖြစ်၏။ အဘိသမ္ပရာယ-ကြည့်။

**အဘိသမ္ပာတ** (ပု) [အဘိ+သံ+ပဒ+တ] စစ်တိုက်ခြင်း၊ စစ်ထိုးခြင်း။ .... အနီကံ, အဘိသမ္ပာတော.... အဘျာမဒ္ဒေါ ဣစ္စာဒယောပိ ယုဒ္ဓေ။ ဓာန်၊ဋီ။၄၀၀။

**အဘိသမ္ပိဏ္ဍေတွာ** (ကြိ၊ဝိ) [အဘိ+သံ+ပိဍိ+တွာ] ပေါင်း–စု–၍။ တဒေကဇ္ဈံ အဘိသညူဟိတွာ အဘိသမ္ပိဏ္ဍေတွာ။ မိလိန္ဒ။၄၆။

**အဘိသမ္ဗန္ဓ** (တိ) [အဘိ+သံ+ဗန္ဓ+အ] ဆက်စပ်သော။ တာယ စ ပန စလိတေဟိ စိတ္တဇရူပေဟိ အဘိသမ္ဗန္ဓာနံ ဥတုဇာဒီနမ္ပိ စလနတော။ ဝိသုဒ္ဓိ၊၂။၇၇။

**အဘိသမ္ဗန္ဓိတွာ** (ကြိ၊ဝိ) [အဘိ+သံ+ဗန္ဓ+တွာ] ဆက်စပ်၍။ အဟံ အဓိဂတောတိ ဧဝံ အဘိသမ္ဗန္ဓိတွာ။ သုတ္တနိ၊ဋ္ဌ၊၁။၆၃။

**အဘိသမ္ဗုဇ္ဈတိ** (ကြိ) [အဘိ+သံ+ဗုဓ+ယ+တိ] (က) သိ၏၊ ထိုးထွင်း၍ သိ၏၊ မျက်မှောက်ပြု၏၊ ရောက်၏၊ ရ၏။ (အနုတ္တရံ သမ္မာသမ္ဗောဓိံ-အဖွင့် ဝိ၊ဋ္ဌ၊၁။၁၀၉၊၁၁၀။ သာရတ္ထ၊၁။၃၅၂-ကို အမှီပြုသည်။) (ခ) သိ၏၊ ဉာဏ်ဖြင့်သိ၏၊ မျက်မှောက်ပြုသောအားဖြင့် ရှေးရှု သိ၏၊ ဟုတ်မှန်သည့်အတိုင်း ထိုးထွင်း၍သိ၏၊ အလွန်ကောင်းစွာသိ၏။ (ဂ) သစ္စာလေးပါးတရားတို့ကို – သိ၏ – ထိုးထွင်း၍သိ၏ – မျက်မှောက်ပြု၏။ ဘုရားအဖြစ်ကို ရ၏၊ ဘုရားဖြစ်ရ၏။ (ဃ)အရဟတ္တမဂ်ဉာဏ်, သဗ္ဗညုတဉာဏ်ကို–သိ၏–ထိုးထွင်း၍ သိ၏–မျက်မှောက်ပြု၏ – ရောက်၏ – ရ၏၊ ဘုရားအဖြစ်ကို ရ၏၊ ဘုရားဖြစ်ရ၏။ (က) တထာဂတော အနုတ္တရံ သမ္မာသမ္ဗောဓိံ အဘိသမ္ဗုဇ္ဈတိ။ ဒီ၊၂။၉၁။ ဒီ၊၃။၁၁၁။ အံ၊၁။၃၃၂၊ ၄၄၆။ ဥဒါန။၁၈၃။ ဣတိဝုတ်။၂၇၆။ မ၊ဋ္ဌ၊ ၁။၅၂။ အံ၊ဋ္ဌ၊၁။၈၅။ အနုတ္တရံ သမ္မာသမ္ဗောဓိံ အာသဝက္ခယဉာဏေန သဒ္ဓိံ သဗ္ဗညုတညာဏံ အဓိဂစ္ဆတိ။ ဣတိဝုတ်၊ဋ္ဌ။ ၃၅၀။ အဟော ဝတာဟံ အနုတ္တရံ သမ္မာသမ္ဗောဓိံ အဘိသမ္ဗုဇ္ဈေယျံ။ စရိယာ၊ဋ္ဌ။ ၂၇၆။ သီ၊ဋီ၊သစ်၊၁။၂၅၃။ ပေတ၊ဋ္ဌ။၁၈။ (–ဥဒါန၊ဋ္ဌ။၁၁၈။ ဣတိဝုတ်၊ဋ္ဌ။၁၁၆၊၂၁၁၊ ၂၉၅။ ဗုဒ္ဓဝံ၊ဋ္ဌ။၁၉။ သီ၊ဋီ၊သစ်၊၁။၁၈။) သဗ္ဗေ တေ ဘဂဝန္တော....အဘိသမ္ဗုဇ္ဈိံသု။ ဒီ၊၂။၇၁။ ဒီ၊၃။၈၃။ သံ၊၃။၁၃၉။ အဟံ ဟိ မဟာကသိံ ကသန္တော တာဝ န မုဥ္စိံ၊ ယာဝ န သမ္မာသမ္ဗောဓိံ အဘိသမ္ဗုဇ္ဈိံ။ သံ၊ဋ္ဌ၊၁။၂၃၄။ သုတ္တနိ၊ဋ္ဌ၊၁။၁၃၄။ သဗ္ဗေ တေ ဘဂဝန္တော....အနုတ္တရံ သမ္မာသမ္ဗောဓိံ အဘိသမ္ဗုဇ္ဈိဿန္တိ။ ဒီ၊၂။၇၁။ ဒီ၊၃။၈၃။ သံ၊ ၃။၁၃၉၊၁၈၀။ (ခ) စတ္တာရိ သစ္စာနိ အဘိသမ္ဗုဇ္ဈတိ။ အဘိ၊ဋ္ဌ၊၃။၄၁။ ဣတိဝုတ်၊ဋ္ဌ။ ၁၃၃။ ပဋိသံ၊ဋ္ဌ၊၁။၁၉၅။ စတုသစ္စဓမ္မေ အဘိသမ္ဗုဇ္ဈတိ။ သံ၊ဋီ၊၂။၇၈။ တံ တထာဂတော အဘိသမ္ဗုဇ္ဈတိ အဘိသမေတိ။ သံ၊ ၁။၂၆၄။ သံ၊၂။၁၁၃။ အံ၊၁။၂၈၉။ အဘိသမ္ဗုဇ္ဈတီတိ ဉာဏေန အဘိသမ္ဗုဇ္ဈတိ။ သံ၊ ဋ္ဌ၊၂။၃၈။ ပဋိသံ၊ဋ္ဌ၊၁။၂၂၇။ အဘိသမ္ဗုဇ္ဈတိ ပစ္စက္ခကရဏေန အဘိမုခံ ဗုဇ္ဈတိ၊ ယာထာ-

ဝတော ပဋိဝိဇ္ဈတိ။ သံ၊ဋ္ဌိ၊၂။၄၉၊၅၀။ အံ၊ဋ္ဌိ၊၂။၂၁၇။ ဝိသုဒ္ဓိ၊ဋ္ဌိ၊၂။၂၂၇။ စတ္တာရိ အရိယသစ္စာနိ ယထာဘူတံ **အဘိသမ္ဗုဇ္ဈန္တိ**။ သံ၊ ၃။၃၈၀။ အဘိသမ္ဗောဇ္ဈန္တိ။ သံ၊၃။၃၆၅။ သာမံ သစ္စာနိ **အဘိသမ္ဗုဇ္ဈိ**။ ပဋိသံ။၁၇၂။ မဟာနိ။၃၆၃။ ဗုဒ္ဓဝံ၊ဋ္ဌ။၁၉။ သီ၊ဋ္ဌိ၊သစ်၊၁။ ၁၈။ သံ၊ဋ္ဌိ၊၁။၁၀။ အဘိသမ္ဗုဇ္ဈိတိ ဘုသံ သမ္မာ ပဋိဝိဇ္ဈိ။ ပဋိသံ၊ဋ္ဌ၊၂။၈၄။ မဟာနိ၊ဋ္ဌ။ ၃၈၉။ သံ၊၃။၃၇၉၊၃၈၀။ **အဘိသမ္ဗောဇ္ဈိသန္တိ**။ သံ၊၃။၃၆၅။ (ဂ) (ဃ) အယံ.... အဿတ္ထရုက္ခမူလေ အဘိသမ္ဗုဇ္ဈိဿတိ။ အပ၊ ဋ္ဌ၊၁။၂၀။ ဗုဒ္ဓဝံ၊ဋ္ဌ။၁၁၇။ ဇာ၊ဋ္ဌ၊၁။၁၉။ တ္လဒါနာဟံ မနုဿယောနိယံ ဥပ္ပဇ္ဇိတွာ **အဘိသမ္ဗုဇ္ဈိဿာမိ**။ ဥဒါန၊ဋ္ဌ။၁၃၂။ ဣတိဝုတ်၊ဋ္ဌ။ ၁၂၀။

**အဘိသမ္ဗုဇ္ဈန** (န) [အဘိ+သံ+ဗုဓ+ယ+ယု] (က) အရဟတ္တမဂ်ဉာဏ်, သဗ္ဗညုတဉာဏ် ရခြင်း၊ ဘုရားဖြစ်ခြင်း။ (ခ) သိခြင်း၊ ထိုးထွင်း၍ သိခြင်း၊ မျက်မှောက်ပြုခြင်း။ (က) ထွေဋ္ဌန္တရေတိ အဘိသမ္ဗုဇ္ဈနဿ ပရိနိဗ္ဗာယနဿ စ ဝိဝရေ။ သီ၊ဋ္ဌိ၊သစ်၊၁။၈၄။ (ခ) ဗုဇ္ဈနတ္ထ (မ၊ဋ္ဌိ၊၂။၂၁၅) ကြည့်။

**အဘိသမ္ဗုဇ္ဈနက** (တိ) [အဘိသမ္ဗုဇ္ဈန+က] သိလတ္တံ့–ထိုးထွင်း၍သိလတ္တံ့–မျက်မှောက်ပြုလတ္တံ့–သော၊သူ။ သမ္ဗောဓိပရာယဏ(သံ၊ ဋ္ဌ၊၂။၆၀။ အံ၊ဋ္ဌိ၊၃။၂၉၅။) ကြည့်။

**အဘိသမ္ဗုဇ္ဈနကာလ** (ပု) [အဘိသမ္ဗုဇ္ဈန + ကာလ] အရဟတ္တမဂ်ဉာဏ်, သဗ္ဗညုတဉာဏ်ကို ရလတ္တံ့သောအချိန်အခါ၊ ဘုရားဖြစ်မည့်အချိန်အခါ။ သိဒ္ဓတ္ထကုမာရဿ အဘိသမ္ဗုဇ္ဈနကာလော အာသန္နော။ ဗုဒ္ဓဝံ၊ဋ္ဌ။၃၂၇။ အပ၊ဋ္ဌ၊၁။၇၁။ ဇာ၊ဋ္ဌ၊၁။၆၉။ အဘိသမ္ဗောဓိ (ခ) ကြည့်။

**အဘိသမ္ဗုဇ္ဈနက္ခဏ** (ပု) [အဘိသမ္ဗုဇ္ဈန+ခဏ] အရဟတ္တမဂ်ဉာဏ်, သဗ္ဗညုတဉာဏ် ရသော–ဘုရားဖြစ်ဆဲ–ခဏ။ ရတ္တေကဒေသဘူတဿ အဘိသမ္ဗုဇ္ဈနက္ခဏဿ အစ္စန္တသံယောဂတ္တာ။ သီ၊ဋ္ဌိ၊သစ်၊၁။၃၁၄။ အဘိသမ္ဗုဒ္ဓက္ခဏ-လည်း ကြည့်။

**အဘိသမ္ဗုဇ္ဈနတ္ထ** (ပု) [အဘိသမ္ဗုဇ္ဈန+အတ္ထ] သိခြင်း–ထိုးထွင်း၍သိခြင်း–မျက်မှောက်ပြုခြင်း–ရောက်ခြင်း–ရခြင်း–အကျိုး။ ဘဂဝါ ဗောဓိမဏ္ဍေ သမ္မာသမ္ဗောဓိံ အဘိသမ္ဗုဇ္ဈနတ္ထာယ နိသိန္နော။ ဝိ၊ဋ္ဌ၊၁။၁၂၉။

**အဘိသမ္ဗုဇ္ဈနဒိဝသ** (ပု) [အဘိသမ္ဗုဇ္ဈန+ဒိဝသ]အရဟတ္တမဂ်ဉာဏ်,သဗ္ဗညုတဉာဏ် ရသော – ဘုရားဖြစ်သော–နေ့။ အဘိသမ္ဗုဇ္ဈနဒိဝသေ စ စတုဝီသတိကောဋိသတသဟဿသင်္ချာ သမာပတ္တိယော သမာပဇ္ဇိ။ ဒီ၊ဋ္ဌ၊၂။ ၁၆၂။ ဥဒါန၊ဋ္ဌ။၃၆၆။ အဘိသမ္ဗုဇ္ဈနဒိဝသေ ဩိတရိတွာ နှာနဋ္ဌာနံ သုပတိဋ္ဌ နာမ အတ္ထိ။ အပ၊ဋ္ဌ၊၁။၈၃။ ဇာ၊ဋ္ဌ၊၁။၈၁။

**အဘိသမ္ဗုဇ္ဈနမတ္တ** (န) [အဘိသမ္ဗုဇ္ဈန+မတ္တ] သိခြင်း–ထိုးထွင်း၍ သိခြင်း–မျှ။ န ပန အဘိသမ္ဗုဇ္ဈနမတ္တံ။ သီ၊ဋ္ဌိ၊သစ်၊၁။၃၁၇။

**အဘိသမ္ဗုဇ္ဈနဟေတု** (ပု) [အဘိသမ္ဗုဇ္ဈန+ဟေတု] သိခြင်း – ထိုးထွင်း၍ သိခြင်း – ၏ အကြောင်း။ လောကဿ တထာဂတော ဝိသံယုတ္တောတိ အာဒိနာ.... အဘိသမ္ဗုဇ္ဈနဟေတုံ ဝါ ဒေဿဟိ ဒဿေတိ။ သီ၊ဋ္ဌိ၊သစ်၊ ၁။၃၁၇။

**အဘိသမ္ဗုဇ္ဈန္တ** (တိ) [အဘိ+သံ+ဗုဓ+ယ+အန္တ] သိရာ–ထိုးထွင်း၍သိရာ–မျက်မှောက်ပြုရာ–ရောက်ရာ–ရရာ–ဌာန–အခါ။ ဗုဇ္ဈန္တ (ဗုဒ္ဓဝံ၊ဋ္ဌ။၁၀၇) ကြည့်။

**အဘိသမ္ဗုဇ္ဈိတွာ** (ကြိ၊ဝိ) [အဘိ+သံ+ဗုဓ+ယ+တွာ] (က) သိ၍၊ ဉာဏ်ဖြင့်သိ၍၊ မျက်မှောက်ပြုသဖြင့် ရှေးရှု သိ၍၊ ဟုတ်မှန်သည့်အတိုင်း ထိုးထွင်းသိ၍။ (အဘိသမ္ဗုဇ္ဈတိ-

အဖွင့် သံ၊ဋ္ဌ၊၂။၃၈။ သံ၊ဋီ၊၂။၅၀-ကို အမှီပြုသည်။) (ခ) သိ၍၊ ထိုးထွင်းသိ၍၊ မျက်မှောက်ပြု၍၊ရောက်၍၊ရ၍။ (အဘိသမ္ဗုဇ္ဈတိ (က) အနက်ကို အမှီပြုသည်။) (က) အဘိသမ္ဗုဇ္ဈိတွာ အဘိသမေတွာ အာစိက္ခတိ ဒေသေတိ။ သံ၊၁။၂၆၄။ သံ၊၂။၁၁၃။ အံ၊၁။၂၈၉-၉၀။ ဒီ၊ဋီ၊၁။၃၈၃။ ဒီ၊ဋီ၊၃။၁၆၇။ မူလဋီ၊၃။၁၇၅။ (ခ) ဒီ၊ဋ္ဌ၊၁။၁၆။ မ၊ဋ္ဌ၊၂။၂၅၅။ သုတ္တနိ၊ဋ္ဌ၊၁။၁၂၃။ သုတ္တနိ၊ဋ္ဌ၊၂။၈၉။ နေတ္တိ၊ဋ္ဌ။၂၄၂။

**အဘိသမ္ဗုဇ္ဈိဿတိ** (ကြိ) [အဘိ+သံ+ဗုဓ+ယ+ဿတိ] အရဟတ္တမဂ်ဉာဏ်, သဗ္ဗညုတဉာဏ်ကို ရလတ္တံ့၊ ဘုရားဖြစ်လတ္တံ့။ အဘိသမ္ဗုဇ္ဈတိ-ကြည့်။

**အဘိသမ္ဗုဇ္ဈိဿန္တိ** (ကြိ) [အဘိ+သံ+ဗုဓ+ယ+ဿန္တိ] သိကုန်လတ္တံ့၊ မျက်မှောက်ပြုသောအားဖြင့် ရှေးရှုသိကုန်လတ္တံ့၊ ဟုတ်မှန်သောအတိုင်း ထိုးထွင်း၍ သိကုန်လတ္တံ့။ အဘိသမ္ဗုဇ္ဈတိ-ကြည့်။

**အဘိသမ္ဗုဇ္ဈေယျံ** (ကြိ) [အဘိ+သံ+ဗုဓ+ယ+ဧယျံ] အရဟတ္တမဂ်ဉာဏ်, သဗ္ဗညုတဉာဏ်ကို –ရ –ဘုရားဖြစ် –ရာ၏ –ရပါမူကား။ အဘိသမ္ဗုဇ္ဈတိ-ကြည့်။

**အဘိသမ္ဗုဒ္ဓ** (တိ) [အဘိ+သံ+ဗုဓ+တ] (၁) (က) သိပြီးသော၊ ထိုးထွင်း၍ သိပြီးသော၊ မျက်မှောက်ပြုပြီးသော၊ရောက်ပြီးသော၊ရပြီးသော။ (ခ)သိသော၊ထိုးထွင်း၍သိသော၊သူ။ (ပု)(ဂ) ရှေးရှုမျက်မှောက် အဖြစ်အားဖြင့် ကောင်းစွာသာလျှင် အလုံးစုံသော တရားတို့ကို သိတတ်သောဘုရား။(ဃ)သိတတ်သော။ (င) သစ္စာလေးပါးကို – သိသော – ထိုးထွင်း၍သိသော – မျက်မှောက်ပြုသော။ (၂) သိအပ်သော၊ ထိုးထွင်း၍ သိအပ်သော၊ မျက်မှောက် ပြုအပ်သော။ (သစ္စာလေးပါး အနက် စသည်။) (၁) (က) အနုတ္တရံ သမ္မာသမ္ဗောဓိံ အဘိသမ္ဗုဒ္ဓေါ။ ဝိ၊၁။၄။ ဝိ၊၃။၁၆။ ဒီ၊၂။၇၁။ မ၊၁။၈။ သံ၊၁။၆၊၈၁။ သံ၊၂။၂၄။ သံ၊၃။၃၇၀။ အံ၊၁။ ၂၆၁၊၄၃၅။ အံ၊၂။၄၃၉။ အံ၊၃။၂။ ပဋိသံ၊၃၃၁။ အဘိသမ္ဗုဒ္ဓေါတိ အဗ္ဗညာသိံ ပဋိဝိဇ္ဈိ၊ ပတ္တောမှိ အဓိဂတောမှီတိ ဝုတ္တံ ဟောတိ။ ဝိ၊ဋ္ဌ၊၁။၁၁၀။ မ၊ဋ္ဌ၊၁။၅၇။ အံ၊ဋ္ဌ၊၃။၂၀၄။ အဘိသမ္ဗုဒ္ဓေါ- (ဒီ၊ဋ္ဌ၊၁။၄၄)တိ အဗ္ဗညာသိ ပဋိဝိဇ္ဈိ။ သံ၊ဋီ၊ သစ်၊၁။၁၉၉။ (–သာရတ္ထ၊၁။၃၅၂။အံ၊ဋီ၊၃။ ၂၁၆။)အဘိသမ္ဗုဒ္ဓေါတိ ပစ္စညာသိန္တိ "အဘိသမ္ဗုဒ္ဓေါ အဟံ ပတ္တော ပဋိဝိဇ္ဈိတွာ ဌိတော"-တိ ဧဝံ ပဋိဇာနိံ။ သံ၊ဋ္ဌ၊၂။၁၄၃။ သာရတ္ထ၊ ၃။၁၈၀။ (ခ) အဘိသမ္ဗုဒ္ဓံ ပကာသေသုံ- (သံ၊၃။၄၆၅)န္တိ အဘိသမ္ဗုဒ္ဓေါ အဟန္တိ ဧဝံ အတ္တာနံ အဘိသမ္ဗုဒ္ဓံ ပကာသယိံသု။ သံ၊ဋ္ဌ၊၃။၃၂၅။ (ဂ) အဘိမုခဘာဝေန သမ္မဒေဝ သဗ္ဗဓမ္မေ ဗုဇ္ဈတီတိ အဘိသမ္ဗောဓိ၊ သဗ္ဗညုတဉာဏံ၊ တေန သမန္နာဂတတ္တာ စ ဘဂဝါ အဘိသမ္ဗုဒ္ဓေါတိ ဝုစ္စတိ။ သံ၊ဋီ၊ ၁။၂၀၁။ (ဃ) တထာဂတ (ဒီ၊ဋ္ဌ၊၁။၅၉။ မ၊ဋ္ဌ၊၁။၄၇။ သံ၊ဋ္ဌ၊၂။၂၆၅။ အံ၊ဋ္ဌ၊၁။၈၀။ ဥဒါန၊ဋ္ဌ။၁၁၂။ ဣတိဝုတ်၊ဋ္ဌ။၁၁၁။ ထေရ၊ ဋ္ဌ၊၁။၄၂။ ပဋိသံ၊ဋ္ဌ၊၁။၁၉၀။ မဟာနိ၊ဋ္ဌ။ ၁၅၃။ ဗုဒ္ဓဝံ၊ဋ္ဌ။၁၈။) ကြည့်။ (င) ဝိပဿီ.... ပါဠလိယာ မူလေ အဘိသမ္ဗုဒ္ဓေါ။ ဒီ၊၂။၃၊ ၄၃။ အဘိသမ္ဗုဒ္ဓေါတိ သကလံ ဗုဒ္ဓဂုဏဝိဘဝသိရိံ ပဋိဝိဇ္ဈမာနော စတ္တာရိ သစ္စာနိ အဘိသမ္ဗုဒ္ဓေါ။ ဒီ၊ဋ္ဌ၊၂။၉။ (–ဒီ၊ဋီ၊၂။၁၁။ မိလိန္ဒ။၁၁၄။) (၂) လောကော ဘိက္ခဝေ တထာဂတေန အဘိသမ္ဗုဒ္ဓေါ။ အံ၊၁။ ၃၃၁။ ဣတိဝုတ်။၂၇၅။ အဘိသမ္ဗုဒ္ဓေါတိ ဉာတော ပစ္စက္ခော ကတော။ အံ၊ဋ္ဌ၊၂။၂၆၈။ အဘိသမ္ဗုဒ္ဓေါတိ.... အဘိဝိသိဋ္ဌေန သယမ္ဘုဉာဏေန သမ္မာ အဝိပရီတံ ယော ယော အတ္ထော ယထာ ယထာ ဗုဇ္ဈိတဗ္ဗော၊ တထာ တထာ ဉာတော အတ္တပစ္စက္ခော ကတောတိ

အဘိသမ္ဗုဒ္ဓေါ။ ဣတိဝုတ်၊ဋ္ဌ။၃၄၆။ (....စူဠနိ၊ ဋ္ဌ။၆၁။) မဇ္ဈိမာ ပဋိပဒါ တထာဂတေန အဘိသမ္ဗုဒ္ဓါ။ ဝိ၊၃။၁၄။ သံ၊၃။၃၆၉။ ပဋိသံ။ ၃၃၀။ အဘိသမ္ဗုဒ္ဓါတိ ပဋိဝိဒ္ဓါ။ ပဋိသံ၊ဋ္ဌ၊၂။ ၂၁၆။ (–ဒီ၊၃။၁၁၁။ မ၊၃။၂၆။ သံ၊၁။ ၁၄၁။ အံ၊၁။၃၂၉။ မဟာနိ၊ဋ္ဌ။၁၅၆။) အန- ဘိသမ္ဗုဒ္ဓ, ပဋ္ဌမာဘိသမ္ဗုဒ္ဓ-တို့လည်း ကြည့်။

**အဘိသမ္ဗုဒ္ဓက္ခဏ** (ပု) [အဘိသမ္ဗုဒ္ဓ + ခဏ] အရဟတ္တမဂ်ဉာဏ်,သဗ္ဗညုတဉာဏ် ရပြီးသော –ဘုရားဖြစ်ပြီးသော–ခဏ။ တတော ပရံ ပန အဘိသမ္ဗုဒ္ဓက္ခဏံ ဂဟေတွာ ဝုတ္တံ "ဟန္ဒိ ဝိဟန္ဒိ ဝိဒ္ဓံသေသိ"တိ။ သာရတ္ထ၊၁။၂၂၄။ ဝိသုဒ္ဓိ၊ဋီ၊၁။၂၂၄။ အဘိသမ္ဗုဇ္ဈနက္ခဏ-လည်း ကြည့်။

**အဘိသမ္ဗုဒ္ဓဂါထာ** (ထီ) [အဘိသမ္ဗုဒ္ဓ+ဂါထာ] မြတ်စွာဘုရား ဟောအပ်သော ဂါထာ။ (ဇာတ်,နိပါတ်,ဝတ္ထုကြောင်း အတွင်း သက်ဆိုင်ပါဝင်သူတို့ ပြောဆိုသောဂါထာများတွင် မြတ်စွာဘုရားက ကြားဝင်ဟောကြားအပ်သောဂါထာများနှင့်)ဇာတ်, နိပါတ်, ဝတ္ထုတို့၏ အဆုံး၌ အကျဉ်းချုံး ရှင်းပြဖော်ထုတ်၍ မြတ်စွာဘုရားဟောအပ်သောဂါထာ၊ ယဿ တေဒိသာ ဟောန္တီတိ အယံ အဘိသမ္ဗုဒ္ဓ- ဂါထာ။ ပေတ၊ဋ္ဌ။၉၃။ ဣမာ အဘိသမ္ဗုဒ္ဓ- ဂါထာ ဝတွာ။ ဇာ၊ဋ္ဌ၊၂။၂၂၅၊၃၀၉။ ဣမာ တိဿော အဘိသမ္ဗုဒ္ဓဂါထာ။ ဇာ၊ဋ္ဌ၊၃။၇၁။ (– ၄၀၊၁၀၇၊၃၁၆၊၄၀၆၊၄၇၀။ ဇာ၊ဋ္ဌ၊၄။ ၅၀၊၀၀၊၁၃၃.၄၇၃။ ဇာ၊ဋ္ဌ၊၅။၁၆၅၊၄၃၂။)

**အဘိသမ္ဗုဒ္ဓတာသာမည** (နု) [အဘိသမ္ဗုဒ္ဓ- တာ+သာမည] သိသည်၏ အဖြစ်အားဖြင့် တူခြင်း။ သာမံ သစ္စာနံ အဘိသမ္ဗုဒ္ဓတာ- သာမညေန "ဗုဒ္ဓရတနမ္ပိ ဒုဝိဓ"န္တိ ဝုတ္တံ။ မ၊ ဋီ၊၃။၃၉၃။

**အဘိသမ္ဗုဒ္ဓတ္တ** (နု) [အဘိသမ္ဗုဒ္ဓ+တ္တ] ထိုး ထွင်း၍ သိသည်၏ အဖြစ်။ စတုန္နံ အရိယ- သစ္စာနံ ယထာဘူတံ အဘိသမ္ဗုဒ္ဓတ္တာ တထာ- ဂတော အရဟံ သမ္မာသမ္ဗုဒ္ဓေါတိ ဝုစ္စတိ။ သံ၊၃။၃၇၉။ အဘိ၊ဋ္ဌ၊၂။၇၉။ ပဘာသေတီတိ အတ္တဒမတ္တတ္တံ ယထတ္တံ အဘိသမ္ဗုဒ္ဓတ္တာ သော ဣမံ လောကံ သြဘာသေတိ ဘာသေတိ ပဘာသေတိ။ ပဋိသံ။၁၇၃။ အဘိသမ္ဗုဒ္ဓတ္တာ- တိ သာဝကပါရမိဉာဏေနပိ ပဋိဝိဒ္ဓဘာဝေန။ ပဋိသံ၊ဋ္ဌ၊၂။၈၇။ တထာနံ (ဓမ္မာနံ) အဘိ- သမ္ဗုဒ္ဓတ္တာ "တထာဂတော"တိ ဝုစ္စတိ။ ဒီ၊ ဋ္ဌ၊၁။၆၄။ မ၊ဋ္ဌ၊၁။၅၁။ အံ၊ဋ္ဌ၊၁။၈၄။ ဥဒါန၊ ဋ္ဌ။၁၁၄။ ဣတိဝုတ်၊ဋ္ဌ။၁၁၃။ ဗုဒ္ဓဝံ၊ဋ္ဌ။၁၉။ ပဋိသံ၊ဋ္ဌ၊၁။၁၉၄။ (–သီ၊ဋီ၊သစ်၊၁။၃၁၃။ ဝိသုဒ္ဓိ၊ဋီ၊၁။၂၅၀။)

**အဘိသမ္ဗုဒ္ဓတ္ထ** (တိ) [အဘိသမ္ဗုဒ္ဓ+အတ္ထ] ထိုး ထွင်း၍သိမြင်း အနက်ရှိသော။ အဘိသမ္ဗုဒ္ဓ- တ္ထော ဟိ တ္ထော (ဟေတ္ထ၊ ဒီ၊ဋ္ဌ၊၁။) ဂတ- သဒ္ဒေါ။ ဒီ၊ဋ္ဌ၊၁။၆၄။ မ၊ဋ္ဌ၊၁။၅၁။ ဥဒါန၊ဋ္ဌ။ ၁၁၄။ ဣတိဝုတ်၊ဋ္ဌ။၁၁၃။ မဟာနိ၊ဋ္ဌ။၁၅၇။ ဗုဒ္ဓဝံ၊ဋ္ဌ။၁၉။ သီ၊ဋီ၊သစ်၊၁။၃၁၃။ (အံ၊ဋ္ဌ၊၁။ ၈၄။ ပဋိသံ၊ဋ္ဌ၊၁။၁၉၄-တို့၌ အဘိသမ္ဗော- ဓတ္ထ-ဟု ရှိသည်။)

**အဘိသမ္ဗုဒ္ဓဒိဝသ** (ပု) [အဘိသမ္ဗုဒ္ဓ+ဒိဝသ] အရဟတ္တမဂ်ဉာဏ်,သဗ္ဗညုတဉာဏ်ကို ရသော – ဘုရားဖြစ်သော–နေ့။ တေန အဘိ- သမ္ဗုဒ္ဓဒိဝသေန သဒ္ဓိံ အဋ္ဌာဟံ ကေပလ္လ- ကေန နိသိန္နဘာဝံ ဒဿေတိ။ ဝဇိရ။၃၉၃။

**အဘိသမ္ဗုဒ္ဓဓမ္မသဘာဝ** (ပု) [အဘိသမ္ဗုဒ္ဓ+ဓမ္မ +သဘာဝ] သိအပ်သောတရား၏–ကေန်– ထင်ရှား – ရှိသည်၏ အဖြစ်။ ပဌမာဘိ- သမ္ဗုဒ္ဓေါတိ ဝစနံ သုတွာ သာဝကသံဃာ- ဘာဝံ အဘိသမ္ဗုဒ္ဓဓမ္မသဘာဝဥ္စ ဇာနိံသုတိ ဝေဒိတဗ္ဗံ။ ငဇိရ။၃၉၆။

**အဘိသမ္ဗုဒ္ဓဘာဝ** (ပု) [အဘိသမ္ဗုဒ္ဓ+ဘာဝ] (က)ထိုးထွင်း၍သိသည်၏အဖြစ်၊ အရဟတ္တ- မဂ်ဉာဏ်,သဗ္ဗညုတဉာဏ် ရသော ဘုရား၏–

အဖြစ် – ဖြစ်ခြင်း။ (ခ) သိသော – ထိုးထွင်း၍ သိသော – မျက်မှောက်ပြု – ရပြီး – ရောက်ပြီး – သော – သူ၏ အဖြစ်။ (က) တထာယံ အဘိသမ္ဗုဒ္ဓဘာဝံ အာဂတော အဓိဂတောတိ တထာဂတော။ ဥဒါန၊ဋ္ဌ။၁၁၇။ ဣတိဝုတ်၊ဋ္ဌ။ ၁၁၆။ (ခ) ဟိမဝန္တေ ဝသန္တော အဘိသမ္ဗုဒ္ဓဘာဝံ သုတွာ။ ထေရ၊ဋ္ဌ၊၁။၇၂။ (–ဒီ၊ ဋ္ဌီ၊၁။၅၃။ မ၊ဋ္ဌီ၊၂။၆။ မ၊ဋ္ဌီ၊၃။၇။ အံ၊ဋ္ဌီ၊၃။ ၃၆၁။)

**အဘိသမ္ဗုဒ္ဓါကာရ** (ပု) [အဘိသမ္ဗုဒ္ဓ+အာကာရ] သိသော အခြင်းအရာ။ သမ္မဒက္ခာတောတိ တေနေဝ အဘိသမ္ဗုဒ္ဓါကာရေန သမ္မဒေဝ ဒေသိတော။ ဒီ၊ဋ္ဌီ၊၃။၁၆၇။

**အဘိသမ္ဗုဒ္ဓါဝတ္ထာ** (ထီ) [အဘိသမ္ဗုဒ္ဓ+အဝတ္ထာ] အရဟတ္တမဂ်ဉာဏ်, သဗ္ဗညုတဉာဏ် ရသော – ဘုရားဖြစ်ဆဲ – အခိုက်အတန့်။ ဣဒါနိ အဘိသမ္ဗုဒ္ဓါဝတ္ထာသု ဧဝ သီဟသဒ္ဒိသတံ ဒဿေတုံ။ အံ၊ဋ္ဌီ၊၂။၂၇၃။

**အဘိသမ္ဗုဇ္ဈန္တ** (တိ) [အဘိ+သံ+ဗုဓ+အန္တ] ထိုးထွင်း၍သိသော၊သူ။ ယံ ဓမ္မံ အဘိသမ္ဗုဇ်။ သံ၊၁။၂၁၂။ ယံ ဓမ္မံ ဘဂဝါ အဘိသမ္ဗုဇ္ဈိ။ သံ၊ဋ္ဌ၊၁။၂၇၄။ အဘိသမ္ဗုဇ္ဈိတိ အဘိသမ္ဗုဇ္ဈန္တော၊ တေနာဟ "အဘိသမ္ဗုဇ္ဈိ"တိ။ သံ၊ဋ္ဌီ၊၁။၃၁၄။

**အဘိသမ္ဗုဇ္ဈမာန** (တိ) [အဘိ+သံ+ဗုဓ+အာန] သိသော၊သူ။ မရိစိဓမ္မံ အဘိသမ္ဗုဇ္ဈမာနော။ ဓမ္မ။၂၀။ အဘိသမ္ဗုဇ္ဈမာနော ဗုဇ္ဈန္တော၊ ဇာနန္တောတိ အတ္ထော။ ဓမ္မ၊ဋ္ဌ၊၁။၂၁၄။

**အဘိသမ္ဗောဇ္ဈန္တိ** (ကြိ) အဘိသမ္ဗုဇ္ဈန္တိ·ကြည့်။

**အဘိသမ္ဗောဇ္ဈိံသု** (ကြိ) အဘိသမ္ဗုဇ္ဈိံသု·ကြည့်။

**အဘိသမ္ဗောဇ္ဈိဿန္တိ** (ကြိ) အဘိသမ္ဗုဇ္ဈိဿန္တိ·ကြည့်။

**အဘိသမ္ဗောဓ** (ပု) [အဘိ+သံ+ဗုဓ+ဏ] (၁) (က) သိခြင်း၊ ထိုးထွင်း၍ သိခြင်း၊ မျက်မှောက်ပြုခြင်း၊ ရောက်ခြင်း၊ ရခြင်း။ (ခ) အရဟတ္တမဂ်ဉာဏ်, သဗ္ဗညုတဉာဏ်ကို – သိသော–ထိုးထွင်း၍သိသော–ဉာဏ်။ (၂)(က) အရဟတ္တမဂ်ဉာဏ်။ (ခ) အရဟတ္တမဂ်ဉာဏ်, သဗ္ဗညုတဉာဏ်။ (၁) (က) တဿာ အဘိသမ္ဗောဓာယ အယံ ပဌမော မဟာသုပိနော ပါတုရဟောသိ။ အံ၊၂။၂၁၁။ (ခ) သစ္စာဘိသမ္ဗောဓ (သုတ္တနိ၊ဋ္ဌ၊၂။၃၂၀) ကြည့်။ (၂) (က) ဗောဓိရုက္ခမူလေတိ ဧတ္ထ စ ဗောဓိ ဝုစ္စတိ အဘိသမ္ဗောဓော၊ သော စ အတ္ထတော ဘဂဝတော စတုတ္ထမဂ္ဂဉာဏံ ဟောတိ။ ဝဇီရ။၃၉၃။ (ခ) သကလာပိ ဝါ သော ရတ္တိ အဘိသမ္ဗောဓာယ ပဒဟနကာလတ္တာ ပရိယာယေန အစ္စန္တသံယောဂဘူတာတိ ဒဋ္ဌဗ္ဗံ။ သီ၊ဋ္ဌီ၊သစ်၊၁။၃၁၄။

**အဘိသမ္ဗောဓတ္ထ** (ပု) [အဘိသမ္ဗောဓ+အတ္ထ] အဘိသမ္ဗုဒ္ဓတ္ထ–နှင့် အနက်တူ။ ၎င်း ကြည့်။

**အဘိသမ္ဗောဓိ** (ထီ) [အဘိ+သံ+ဗုဓ+ဣ၊ သဗ္ဗညုတညာဏပဒဋ္ဌာနဉ္စ မဂ္ဂဉာဏံ တံပဒဋ္ဌာနဉ္စ သဗ္ဗညုတညာဏံ အဘိသမ္ဗောဓိ။ သာရတ္ထ၊၁။၃၇၃။ အဘိမုခဘာဝေန သမ္မဒေဝ သဇ္ဇဓမ္မေ ဗုဇ္ဈတီတိ အဘိသမ္ဗောဓိ၊ သဗ္ဗညုတညာဏံ။ သံ၊ဋ္ဌီ၊၁။၂၀၁။] (၁) (က) အလုံးစုံသောတရားတို့ကို ရှေးရှု မျက်မှောက် ကောင်းစွာသာလျှင် သိတတ်သောဉာဏ်၊ အရဟတ္တမဂ်ဉာဏ်, သဗ္ဗညုတဉာဏ်၊ သမ္မာသမ္ဗောဓိဉာဏ်, အဘိသမ္ဗောဓိဉာဏ်။ (ခ) အလုံးစုံသောတရားတို့ကို ရှေးရှုမျက်မှောက် ကောင်းစွာသာလျှင်သိခြင်း၊ အရဟတ္တမဂ်ဉာဏ်,သဗ္ဗညုတဉာဏ်ကို ရခြင်း။ (၂) အလုံးစုံသောတရားတို့ကို ရှေးရှု မျက်မှောက် ကောင်းစွာသာလျှင် သိသောအခါ၊ အရဟတ္တမဂ်ဉာဏ်, သဗ္ဗညုတဉာဏ် ရသော အခါ။ (၃) သိခြင်း၊ ထိုးထွင်း၍ သိခြင်း၊

မျက်မှောက်ပြုခြင်း၊ ရောက်ခြင်း၊ ရခြင်း။ (၁) (က) အဘိသမ္ဗောဓိယာ ဝါ အာဒိ- ကလျာဏော။ ဝိ၊ဋ္ဌ၊၁။၉၉။ ဥဒါန၊ဋ္ဌ။၁၉၇။ သာရတ္ထ၊၁။၃၂၅။ အံ၊ဋီ၊၃။၂၆၀။ ဒီ၊ဋီ၊၁။ ၉၇။ သီ၊ဋီ၊သစ်၊၁။၂၉၃။ ဣတိဝုတ်၊ဋ္ဌ။၂၅၁။ သုတ္တနိ၊ဋ္ဌ၊၂။၁၆၆။ စူဠနိ၊ဋ္ဌ။၂၁။ ဝိသုဒ္ဓိ၊၁။ ၂၀၇။ (ခ) ဝိပဿိဿ ....ဝေ အဘိသမ္ဗောဓိ ဝေ ဓမ္မစက္ကပဝတ္တနံ။ ဒီ၊၂။၄၃။ အဘ္ဘနော အဘိသမ္ဗောဓိံ၊ ပကာသေတိ နရာသဘော။ အပ၊၂။၂၉၇။(–မ၊ဋ္ဌ၊၄။၂၁၉။အံ၊ဋ္ဌ၊၁။၂၀၂။ အဘိ၊ဋ္ဌ၊၁။၃၀။ ဥဒါန၊ဋ္ဌ။၂၆၊၁၃၃။ ဣတိ- ဝုတ်၊ဋ္ဌ။၃၀၄။ သုတ္တနိ၊ဋ္ဌ၊၁။၂၅၂။ ထေရ၊ဋ္ဌ၊ ၁။၄၅။ ဗုဒ္ဓဝံ၊ဋ္ဌ။၂၀။ ဧ၁၊ဋ္ဌ၊၄။၁၈၂။ ဝဇီရ။ ၃၄။ ဝိမတိ၊၂။၃၂၀။ သီ၊ဋီ၊သစ်၊၂။၁၈။) (၂) ဘဂဝါ ဟိ အဘိသမ္ဗောဓိတော သတ္တ- မေ သံဝစ္ဆရေ .... နိသီဒိတွာ။ ဒီ၊ဋ္ဌ၊၁။၅၇။ အဘိသမ္ဗောဓိတော တိ အဘိသမ္ဗုဇ္ဈနကာလ- တော။ သီ၊ဋီ၊သစ်၊၁။၂၃၅။ အဘိသမ္ဗောဓိ- ယံ ဉာဏတေဇေန အဘိသဟတာ ဟုတ္វာ အကမ္ပိတ္ထ။ ဒီ၊ဋ္ဌ၊၂။၁၄၉၊၁၅၀။ အံ၊ဋ္ဌ၊၃။ ၂၅၁။ အဘိသမ္ဗောဓိယံ ပဋိဝေဓဉာဏတေ- ဇေန။ ပဋိသံ၊ဋ္ဌ၊၂။၂၁၈။ အဘိသမ္ဗောဓိ- တော တိံသဝဿေ.... ကုစ္ဆိသ္မိံ နိဗ္ဗတ္တိ။ ဝိမာန၊ဋ္ဌ။၂၄၁။ (–ဒီ၊ဋ္ဌ၊၂။၁၈၃၊၃၈၁။ သံ၊ ဋ္ဌ၊၃။၁၉၈။ အဘိ၊ဋ္ဌ၊၂။၂၆၈။ ဣတိဝုတ်၊ဋ္ဌ။ ၃၀၄။ ပေတ၊ဋ္ဌ။၁၂၇။ ထေရ၊ဋ္ဌ၊၂။၁၇၂။ အပ၊ဋ္ဌ၊၂။၂၆၄။ စရိယာ၊ဋ္ဌ။၃၁၆။ ဒီ၊ဋီ၊၁။ ၉၇။ သီ၊ဋီ၊သစ်၊၁။၄၅၊၂၉၃။ သံ၊ဋီ၊၂။၂၃၃။) (အဘိသမ္ဗောဓိ,သမ္ဗောဓိ ဟူသော အမည် ၂-ခုသည် ပစ္စေကဗုဒ္ဓနှင့် သဗ္ဗညုဗုဒ္ဓတို့၏ ဉာဏ် ၏ အမည်တို့သာ ဖြစ်၏။ နီတိ၊ပဒ။၁၁၂- ကြည့်) (၃) အဘိဓမ္မဿ အဘိသမ္ဗောဓိ အဓိဂမနိဒါနံ။ အနုဋီ၊၁။၂၅။

**အဘိသမ္ဗောဓိအတ္ထ** (ပု) [အဘိသမ္ဗောဓိ + အတ္ထ] အရဟတ္တမဂ်ဉာဏ် သဗ္ဗညုတဉာဏ်ကို ရခြင်းအကျိုး။ တထာ ဟိ ဝိသာခပုဏ္ဏမာ- ယံ အဘိသမ္ဗောဓိအတ္ထံ ဗောဓိရုက္ခမူလေ နိသိန္နဿ လောကနာထဿ အန္တရာယကရ- ဏတ္ထံ ဥပဋ္ဌိတံ မာရဗလံ ဝိဓမိတုံ။ ဒီ၊ဋီ၊၂။ ၁၅၇။ အဘိသမ္ဗောဓိအတ္ထံ မဟာဘိနိက္ခမနံ နိက္ခမိ။ ဝိမာန၊ဋ္ဌ။၂၉၇။

**အဘိသမ္ဗောဓိဉာဏ** (နပ) [အဘိသမ္ဗောဓိ + ဉာ- ဏ] အလုံးစုံသော တရားတို့ကို ထိုးထွင်း၍ သိသော – အပိတ်အပင်မရှိသော – ပစ္စေက- ဗုဒ္ဓါ, သာဝကတို့နှင့် မဆက်ဆံသော – ဉာဏ်၊ အဘိသမ္ဗောဓိ – သဗ္ဗညုတ – ဉာဏ်။ သာဝက- ဗောဓိဉာဏံ ပစ္စေကဗောဓိဉာဏံ အဘိ- သမ္ဗောဓိဉာဏံ ဒေတိ။ အံ၊ဋ္ဌ၊၃။၂၁၃။ ဒီ၊ဋ္ဌ ၂။၆၃။ မ၊ဋ္ဌ၊၃။၆၄။ ဝဇီရ။၄၀၂။ သာရတ္ထ၊ ၃။၁၉၃။

**အဘိသမ္ဗောဓိဋ္ဌာနတာ** (ထီ) [အဘိသမ္ဗောဓိ + ဋ္ဌာနတာ] အရဟတ္တမဂ်ဉာဏ်,သဗ္ဗညုတဉာဏ် ကို ရရာဌာန၏အဖြစ်။ အဘိသမ္ဗောဓိဋ္ဌာန- တာယ ဥတ္တမေ မဂဓရဋ္ဌေ ပုရတ္ထိမဒိသာယ။ ဝိမာန၊ဋ္ဌ။၁၄၉။

**အဘိသမ္ဗောဓိဒီဝသ** (ပု) [အဘိသမ္ဗောဓိ + ဒိဝ- သ] အရဟတ္တမဂ်ဉာဏ်,သဗ္ဗညုတဉာဏ်ကို ရ သော – ဘုရားဖြစ်သော – နေ့။ တံဒိဝသန္တိ ဝါ တံ ဘဂဝတော အဘိသမ္ဗောဓိဒိဝသေ၊ သော ကိရ ဗောဓိရုက္ခေ.... အဘိသမ္ဗောဓိ- ဒိဝသေ ပထဝိံ ဥဗ္ဘိဇ္ဇိတွာ။ ဒီ၊ဋီ၊၂။၁၁။ ယံ တံ ဘဂဝတာ (ဘဂဝါ?) အဘိသမ္ဗော- ဓိဒိဝသေ ပစ္ဆိမယာမေ .... အာရဘန္တေန (အာရဘန္တော?).... သမာပဇ္ဇတိ။ ဒီ၊ဋီ၊၃။ ၅၆။ သံ၊ဋီ၊၁။၂၅၂။ (–အနု၊ဋီ၊၂။၂၁၁။)

**အဘိသမ္ဗောဓိဒီပန** (နပ) [အဘိသမ္ဗောဓိ + ဒီပန] အရဟတ္တမဂ်ဉာဏ်, သဗ္ဗညုတဉာဏ်, ရခြင်းကို ပြခြင်း။ ဘဂဝတော ဂါမတော ဒူရတရေ အရညေ အဘိသမ္ဗောဓိဒီပနေန ဒုတိယပုတ္တိ- ဋ္ဌာနနိယမံ တီဟိ ပဒေဟိ အကာသိ။ ဝဇီရ။ ၃၉၂။

**အဘိသမ္ဗောဓိပဋိပတ္တိ** (ထိ) [အဘိသမ္ဗောဓိ+ပဋိပတ္တိ] သဗ္ဗညုတဉာဏ်ရကြောင်း အကျင့်၊ အဘိသမ္ဗောဓိပဋိပတ်။ အောက်ပုဒ် ကြည့်။

**အဘိသမ္ဗောဓိပဋိပတ္တိမဂ္ဂညူ** (ပု) [အဘိသမ္ဗော-ဓိပဋိပတ္တိမဂ္ဂ+ဉာ+ရူ] အဘိသမ္ဗောဓိပဋိပတ် ဟူသော အရိယမဂ်ကို သိတော်မူသော(မြတ်စွာဘုရား)။ မဂ္ဂညူတိ.... အဘိသမ္ဗောဓိပဋိ-ပတ္တိမဂ္ဂညူ။ ပဋိသံ၊ဋ္ဌ၊၂။၂၅၄။ မဟာနိ၊ဋ္ဌ။၂၅၅။

**အဘိသမ္ဗောဓိသမဓိဂမ**(ပု)[အဘိသမ္ဗောဓိ+သ-မဓိဂမ] အရဟတ္တမဂ်ဉာဏ်,သဗ္ဗညုတဉာဏ်ကို – ရခြင်း – ရသောအခါ။ အဘိသမ္ဗောဓိသမ-ဓိဂမတော ပဋ္ဌာယ ဟိ သဗ္ဗံ ဉာဏသမာဓိကိစ္စံ အာကင်္ခါမတ္တပဋိဗဒ္ဓမေဝ။ သာရတ္ထ၊၁။၃၈၃။

**အဘိသမ္ဗောဓိသမယ** (ပု) [အဘိသမ္ဗောဓိ+သမယ] အရဟတ္တမဂ်ဉာဏ်,သဗ္ဗညုတဉာဏ်ကို ရသောအခါ။ အဘိသမ္ဗောဓိသမယော.... ပရိနိဗ္ဗာနသမယောတိ ဧဝမာဒယော။ ဒီ၊ဋ္ဌ၊၁။၃၃။ မ၊ဋ္ဌ၊၁။၁၀။ သံ၊ဋ္ဌ၊၁။၉။ အံ၊ဋ္ဌ၊၁။၉။ ဥဒါန၊ဋ္ဌ။၂၀။ .... ဉာဏကိစ္စသမယော အတ္တဟိတပဋိပတ္တိသမယော စ အဘိသမ္ဗော-ဓိသမယော။ ဒီ၊ဋီ၊၁။၄၆။ သီ၊ဋီ၊သစ်၊၁။၁၇၀။ မ၊ဋီ၊၁။၃၅။ သံ၊ဋီ၊၁။၃၂။ အံ၊ဋီ၊၁။၃၅။ (–အံ၊ဋီ၊၁။၂၁၇။)

**အဘိသမ္ဘရိယတိ** (ကမ္မ၊ကြိ) [အဘိ+သံ+ဘရ+ယ+တိ] ထောက်ပံ့အပ်၏။ ပစ္စယဘူတေ-ဟိ ဧတေဟိ အဘိသမ္ဘရိယန္တိတိ သမ္ဘာရာ။ သံ၊ဋီ၊၂။၂၈၂။

**အဘိသမ္ဘဝ** (ပု) [အဘိ+သံ+ဘူ+အ] (၁) (က)ဖြစ်စေနိုင်သော။ (ခ) နင်း–လျှောက်–သွား–သော–ရသော–နိုင်သော။ (ဂ) ဖြစ်စေ–ပြီးစေ–နိုင်သော၊ သက်ဝင်နိုင်–နေနိုင်–သော။ (ဃ) နှစ်ခြိုက်–အားရ–ပြည့်ဝ–စေနိုင်သော။ (၂) ကံ၏ဖြစ်တည်ရာ ခန္ဓာငါးပါး။ (၁) (က) ဒုရဘိသမ္ဘဝ (ဇာ၊၂။၂၁၁၊၂၄၅-၆-၇။ ဇာ၊ဋ္ဌ၊၆။၂၈၈။ ဇာ၊ဋ္ဌ၊၇။၈၂-၄-၈)ကြည့်။ (ခ) ဒုရဘိသမ္ဘဝ (ဇာ၊၂။၆၃။ ဇာ၊ဋ္ဌ၊၅။၂၈၆၊၂၉၃) ကြည့်။ (ဂ) ဒုရဘိသမ္ဘဝ (မ၊၁။၂၀။ အံ၊၃။၄၂၀။ မ၊ဋ္ဌ၊၁။၁၁၆။ အံ၊ဋ္ဌ၊၃။၃၃၂။ မ၊ဋီ၊၁။၂၀၈။ အံ၊ဋီ၊၃။၃၅၂။) ကြည့်။ (က) (ဂ) (ဃ) ဒုရဘိသမ္ဘဝ (ဇာ၊၁။၆၅။ ဇာ၊ဋ္ဌ၊၂။၂၁၃။) ကြည့်။ (၂) အဘိသမ္ဘဝတိ ကမ္မံ ဧတေသူတိ အဘိသမ္ဘဝါ၊ ခန္ဓာ၊ ဧဝံ အဘိသမ္ဘဝါ ကမ္မာဓိဋ္ဌာနဘူတာ ခန္ဓာတိ အတ္ထော။ အဘိ-ဓမ္မာဝတာရ၊ဋီ၊သစ်၊၂။၁၀၁။

**အဘိသမ္ဘဝတိ=အဘိသမ္ဘောတိ** (ကြိ) [အဘိ+သံ+ဘူ+အ+တိ] (က) ဖြစ်စေအပ်–ပြီးစေအပ် – ပြုအပ် – အားထုတ်အပ် – ၏။ (ခ) ဖြစ်စေနိုင်၏၊ စီမံ – ခန့်ခွဲ – နိုင်၏။ (ဂ) နှိပ်စက်–လွှမ်းမိုး–၏၊ ကုန်ခန်းစေ၏၊ ချေမှုန်း၏။ (ဃ) ရောက်၏။ (င) ရောက်၏၊ ရ၏၊ ထိုးထွင်း၍သိ၏။ (စ) စွမ်းနိုင်၏။ (ဆ) သည်းခံ၏။ (က) ဘာဝနာမယံ ပုညကိရိယဝတ္ထုံ နာဘိသမ္ဘောတိ။ အံ၊၃။၇၂။ နာဘိသမ္ဘောတီတိ န နိပ္ဖာဒေတိ။ အံ၊ဋ္ဌ၊၃။၂၃၁။ (ခ) တေပိ ကမ္မန္တေ အဘိ-သမ္ဘောတိ။ ဒီ၊၂။၁၈၇။ တေပိ ကမ္မန္တေ အဘိသမ္ဘောသိ။ ဒီ၊၂။၁၈၇။ အဘိသမ္ဘော-သီတိ သံဝိဒဟိတွာ ပဋ္ဌပေသိ။ ဒီ၊ဋ္ဌ၊၂။၂၅၄။ အဘိသမ္ဘောသီတိ ကမ္မန္တာနံ သံဝိဓာနေ သမတ္ထော ဟောတီတိ အာဟ “သံဝိဒဟိ-တွာ”တိ။ ဒီ၊ဋီ၊၂။၂၂၅။ (ဂ) **အဘိသမ္ဘော-တိ** အဘိသမ္ဘဝတီတိ ပရံ အဇ္ဈောတ္ထရတိ မဒ္ဒတိ။ နီတိ၊ပဒ။၆။ အထာပရာနိ **အဘိသမ္ဘ-ဝေယျ**.... အဒ္ဓါ ဘဝန္တော အဘိသမ္ဘဝေယျုံ။ သုတ္တနိ။၄၂၇။ မဟာနိ။၃၈၇၊၃၉၁။ အဘိ-ဘဝေယျ၊ န တတြ သိထိလံ ပရက္ကမေယျာ-တိ အဓိပ္ပါယော။ သုတ္တနိ၊ဋ္ဌ၊၂။၂၈၉။ မဟာ-နိ၊ဋ္ဌ။၄၀၆။ ယေ ဘိက္ခူ **အဘိသမ္ဘဝေ**၊ ပန္တမ္ပိ

သယနာသနေ။ သုတ္တနိ။၄၂၆။ မဟာနိ။ ၃၇၆။ အဘိသမ္ဘဝေတိ အဘိဘဝေယျ။ သုတ္တနိ၊ဋ္ဌ၊၂။၂၇၇။ အဘိသမ္ဘဝေတိ အဘိသမ္ဘဝေယျ။ မဟာနိ၊ဋ္ဌ။၃၉၂။ (ဃ) ခိပ္ပမေဝ **အဘိသမ္ဘောန္တိ** ရတိတ္တာယ။ ဇာ၊၂။ ၁၁၄။ ပါပုဏန္တိ။ ဇာ၊ဋ္ဌ၊၅။၄၄၇။ တာနိ စေ **နာဘိသမ္ဘောမ**။ ဇာ၊၁။၁၁၆။ ယဒိ တာနိ န ပါပုဏာမ။ ဇာ၊ဋ္ဌ၊၃။၁၂၉။ အာဝါသံ **အဘိသမ္ဘောသိ**။ အပ၊၁။၁၄၂။ (င) ယထာဂတိံ တေ **အဘိသမ္ဘဝေမ**။ ဇာ၊၂။ ၁၁။ တဝ ဂတိံ နိပ္ဖတ္တိံ အဘိသမ္ဘဝေမ ပါပုဏေယျာမ၊ ကယာ ပဋိပတ္တိယာ ပဋိဝိဇ္ဈေယျာမ။ ဇာ၊ဋ္ဌ၊၅။၁၅၉။ ယထာဂတိံ မေ **အဘိသမ္ဘဝေထ**။ ဇာ၊၂။၁၁။ (စ) ပဿံ ထလံ **နာဘိသမ္ဘောမ** ဂန္တုံ။ ဇာ၊၁။၃၁၅။ ဇာ၊ဋ္ဌ၊၄။၃၉၉။ (ဆ) သဗ္ဗာနိ **အဘိသမ္ဘောသိ**။ ဇာ၊၂။၃၂၆။ အဘိသမ္ဘောသိန္တိ သဟိသာမိ အဓိဝါသေဿာမိ။ ဇာ၊ဋ္ဌ၊၇။ ၂၇၇။

**အဘိသမ္ဘဝနီယ** (တိ) [အဘိ+သံ+ဘူ+အနီယ] ရောက်အပ်သော၊ ရောက်–မီ–တတ်–စွမ်း–နိုင်သော။ အနဘိသမ္ဘဝနီယ-ကြည့်။

**အဘိသမ္ဘဝန္တ=အဘိသမ္ဘောန္တ** (တိ) [အဘိ+သံ+ဘူ+အန္တ၊ ထိ-၌ အဘိသမ္ဘဝန္တီ။ (နီတိ၊ ပဒ။၈၅။)] ဖြစ်စေအပ်သော၊ ဖြစ်စေနိုင်သော။ (က) စီမံ – ခန့်ခွဲ – တတ် – နိုင် – သော။ (ခ) ပြုလုပ်–ဆောင်ရွက်–တတ်–နိုင် – သော။ (ဂ) နှိပ်စက် – လွှမ်းမိုး – သော၊ ကုန်ခန်းစေသော၊ ချေမှုန်းသော။ (ဃ) သည်းခံ – အောင့်အည်း – မညည်းမညူ – သော။ (င) ပြီးစီးစေသော၊ မတွန့်မဆုတ် – မရွံ့မမုန်း – ခြေသလုံးအားကိုးဖြင့် ကျင့်ဆောင် ပြီးစီးစေသော။ (စ) ရောက်သော။ (က) သဗ္ဗကမ္မေ အဘိသမ္ဘဝန္တံ ဒိသွာ။ ဒီ၊ဋ္ဌ၊၂။၂၅၄။ (ခ) သဗ္ဗာနိ အဘိသမ္ဘောန္တော၊ သရာဇဝသတိံ ဝသေ။ ဇာ၊၂။၂၉၀။ သဗ္ဗာနိ ရာဇကိစ္စာနိ ကရောန္တော။ ဇာ၊ဋ္ဌ၊၇။၁၉၆။ (ဂ) ဣဋ္ဌာနိဋ္ဌံ အဘိသမ္ဘဝန္တော ဝါ အဘိဘဝေယျ အဓိဘဝန္တော ဝါ အဘိသမ္ဘဝေယျ။ မဟာနိ။ ၃၉၂။ (ဃ)လူခမ္ပိ အဘိသမ္ဘောန္တော။ထေရ။ ၂၇၈၊၂၇၇။ ဒုဿဟမ္ပိ ပစ္စယလူခံ အဘိဘဝန္တော အဓိဝါသေန္တော။ ထေရ၊ဋ္ဌ၊၂။၆၀။ အပ၊ဋ္ဌ၊၂။၂၁၅။ (င) တောနိ အဘိသမ္ဘောန္တိ၊ ပရလောကေ အနာသဝါ။ ထေရီ။ ၄၁၅။ အဘိသမ္ဘောန္တီတိ အနိပ္ဖန္နရူပါ ဇဿဗလံ နိဿာယ အဘိသမ္ဘဝန္တိ၊ သာဓေန္တီတိ အတ္ထော။ ထေရီ၊ဋ္ဌ။၂၄၂။ (စ) (ဂေါတြဘုစိတ္တံ) အရိယဂေါတ္တမဘိသမ္ဘောန္တဥ္စ ပဝတ္တတိ။ အဘိဓမ္မတ္ထသင်္ဂဟ။၆၅။ အဘိသမ္ဘောန္တန္တိ ပါပုဏန္တံ။ ဝိဘာဝိနီ။၂၇၃။ အဘိ-သံ-သဒ္ဒါနံ ဓာတွတ္ထာနုဝတ္တကတ္တာ ဘူဓာတုယာ သတ္တာအတ္ထေ အပ္ပဝတ္တိတွာ ဂတျတ္ထေ ပဝတ္တတီတိ အာဟ "အဘိ။ပ။ဏန္တ"န္တိ။ မဏိမဉ္ဇူ၊၂။၅၆၀။ အနဘိသမ္ဘဝန္တ-လည်း ကြည့်။

**အဘိသမ္ဘဝိတုံ** (ကြိ၊ဝိ) [အဘိ+သံ+ဘူ+တုံ] (က) ရောက်ခြင်းငှါ။ (ခ) သည်းခံခြင်းငှါ။ (ဂ) ပြီးစေခြင်းငှါ။ (က) န အညော ကောစိ သက္ကောတိ အဘိသမ္ဘဝိတုံ။ ပဋိသံ။ ၃၇၄။ အံ၊ဋ္ဌ၊၁။၄၁၃။ အဘိသမ္ဘဝိတုန္တိ သမ္ပာပုဏိတုံ။ ပဋိသံ၊ဋ္ဌ၊၂။၂၅၂။ အနဘိသမ္ဘဝနီယ-လည်း ကြည့်။ (ခ) ကယိရမာနဥ္စ သမ္ဘဝိတုံ။ သုတ္တနိ၊ဋ္ဌ၊၂။၂၁၀။ ယဒိ နံ ကာတုံ ဝါ အဘိသမ္ဘောတုံ ဝါ သုခံ ဘဝေယျ။ သုတ္တနိ၊ဋ္ဌ၊၂။၂၁၀။ (ဂ) အဘိသမ္ဘဝိတုံ သာဓေတုံ အသက္ကုဏေယျတရံ။ မူလဋီ၊ ၂။၅၉။ ဝိသုဒ္ဓိ၊ဋီ၊၂။၂၂၄။

**အဘိသမ္ဘဝိတွာ** (ကြိ၊ဝိ) [အဘိ + သံ + ဘူ + တွာ] သည်းခံ၍။ သဗ္ဗာနိပေတာနိ အဘိသမ္ဘဝိတွာ။ သုတ္တနိ။၂၈၇။ သုတ္တနိ၊ဋ္ဌ၊၁။၉၀။

**အဘိသမ္ဘဝေ** (ကြိ) [အဘိ+သံ+ဘူ+အ+ယျေ] နှိပ်စက်–လွှမ်းမိုး–၏၊ ကုန်ခန်းခစေ၏၊ ချေမှုန်း၏။ အဘိသမ္ဘဝတိ (၇) ကြည့်။

**အဘိသမ္ဘဝေထ** (ကြိ) [အဘိ+သံ+ဘူ+အ+ယျာထ] ရောက်ရှိ–ရရှိ–ထိုးထွင်းရှိ–သိကြ–ရာ၏–စေသတည်း။ အဘိသမ္ဘဝတိ (၄) ကြည့်။

**အဘိသမ္ဘဝေမ** (ကြိ) [အဘိ+သံ+ဘူ+အ+ယျာမ]ရောက်–ရ–ကုန်ရာ–၏၊ ထိုးထွင်း၍ သိကုန်ရာ၏။ အဘိသမ္ဘဝတိ (၄)ကြည့်။

**အဘိသမ္ဘဝေယျ** (ကြိ) [အဘိ+သံ + ဘူ + အ+ယျေ]နှိပ်စက်–လွှမ်းမိုး–၏၊ ကုန်ခန်းစေ၏၊ ချေမှုန်း၏။ အဘိသမ္ဘဝတိ (၇) ကြည့်။

**အဘိသမ္ဘုဏန္တ** (တိ) [အဘိ+သံ+ဘူ+ဥဏာ+အန္တ] ရောက်–မီ–တတ်–စွမ်း–ပြီးစေ–နိုင်သော၊သူ။ အနဘိသမ္ဘုဏန္တ-ကြည့်။

**အဘိသမ္ဘုဏန္တိ** (ကြိ) အဘိသမ္ဘုဏာတိ-ကြည့်။

**အဘိသမ္ဘုဏမာန** (တိ) [အဘိ + သံ +ဘူ+ဥဏာ+မာန] ရောက်–မီ–တတ်စွမ်း–နိုင်သော၊သူ။ အနဘိသမ္ဘုဏမာန-ကြည့်။

**အဘိသမ္ဘုဏာတိ** (ကြိ) [အဘိ+သမ္ဘု(သံ+ဘူ)+ဥဏာ+တိ] ရောက်၏၊ ပြီး–ပြည့်စုံ–စေ၏၊ တတ်–စွမ်း–နိုင်၏။ န ကိဉ္စိ အတ္ထံ အဘိသမ္ဘုဏာတိ။ ဝိ၊ဋ္ဌ၊၁။၂။ န ကိဉ္စိ အတ္ထံ အဘိသမ္ဘုဏာတီတိ ကိဉ္စိ ပယောဇနံ ဖလံ ဟိတံ န သာဓေတီတိ အတ္ထော။ ဝဇိရ။ ၁၇။ န ကိဉ္စိ အတ္ထံ အဘိသမ္ဘုဏာတီတိ န ကိဉ္စိ အတ္ထံ သာဓေတိ။ ဝိမတိ၊၁။၆။ န အဘိသမ္ဘုဏာတီတိ န သမ္ပာပုဏာတိ၊ န သာဓေတီတိ ဝုတ္တံ ဟောတိ။ နီတိ၊ဓာ။ ၂၄၅။ ဇိဏ္ဏကာလေ.... နာဘိသမ္ဘုဏာတိ။ ဝိ၊ဋ္ဌ၊၂။၁၇၉။ နာဘိသမ္ဘုဏာတီတိ န သမ္ပာဒေတိ၊.... န သက္ကောတီတိ ဝုတ္တံ ဟောတိ။ သာရတ္ထ၊၂။၃၅၉။ (– သာရတ္ထ၊၁။၂၇၇၊ ၃၉၀။) သစေပိ ဥပပတ္တိဒေဝါ... နာနုဘဝန္တိ န အဘိသမ္ဘုဏန္တိ န သက္ကောန္တိ။ ဥဒါန၊ဋ္ဌ။ ၁၄၇။ သာရတ္ထ၊၃။၄၁၄။ (–ဒီ၊ဋ္ဌိ၊၁။၁၂၅။ သီ၊ဋ္ဌိ၊သစ်၊၁။၃၅၄။ မ၊ဋ္ဌိ၊၃။၃၃၇။ အံ၊ဋ္ဌိ၊၂။ ၃၃၂။) သော ဘဝမာနေ၁ အဘိသမ္ဘုဏေယျ။ မ၊ဋ္ဌိ၊၂။၂၀၃။ ၄ဟောတိ-လည်း ကြည့်။

**အဘိသမ္ဘုဏိတွာ** (ကြိ၊ဝိ) [အဘိ+သံ+ဘူ (သမ္ဘု)+ဥဏာ+တွာ] ဖြစ်စေ–ပြည့်စုံစေ–၍၊ ပြုကျင့်၍။ ယောပိ ဒဟရကာလေ အရညာဝါသံ အဘိသမ္ဘုဏိတွာ ဇိဏ္ဏကာ-လေ.... နာဘိသမ္ဘုဏာတိ။ ဝိ၊ဋ္ဌ၊၂။၁၇၉။ အဘိသမ္ဘုဏိတွာတိ နိပ္ဖါဒေတွာ။ သာရတ္ထ၊၂။၃၅၉။ ဝိမတိ၊၁။၂၈၅။

**အဘိသမ္ဘုဏေယျ** (ကြိ) [အဘိ + သံ+ဘူ (သမ္ဘု)+ဥဏာ+တိ] ရောက်ရာ၏။ အဘိ-သမ္ဘုဏာတိ(မ၊ဋ္ဌိ၊၂။၂၀၃) ကြည့်။

**အဘိသမ္ဘုတွာ** (ကြိ၊ဝိ) [အဘိ+သံ+ဘူဧ+တွာ]နှစ်နှစ်ခြိုက်ခြိုက်–မညည်းမညူ–အသုံးပြု–သုံးဆောင်–၍။ ယသောတေ အဘိ-သမ္ဘုတွာ။ ထေရ။၃၅၀။ ယသောတေ အဘိ-သမ္ဘုတွာတိ ယော ဘိက္ခု တေ ဥတ္တိဋ္ဌပိဏ္ဍာ-ဒယော စတ္တာရော ပစ္စယေ အန္တိမဝတ္ထုန အဘိရမိတွာ ပရိဘုဉ္ဇတိ။ ထေရ၊ဋ္ဌ၊၂။၄၅၁။

**အဘိသမ္ဘူ** (ပု) [အဘိ+သံ+ဘူ+ကွိ] လွှမ်းမိုး–နှိပ်နှင်း–သော၊သူ။ လောမဟံသာ-ဘိသမ္ဘူ(ဒီ၊၂။၂၀၄။ ဒီ၊ဋ္ဌ၊၂။၂၇၇) ကြည့်။

**အဘိသမ္ဘူတ** (တိ) [အဘိ + သံ + ဘူ + တ] အပေါင်း အစုပြုအပ်သော၊ မြင်အပ်သော၊ ကြားအပ်သော။ ယေ စက္ခုဝိညာဏာဘိ-သမ္ဘူတာ .... သောတဝိညာဏာဘိသမ္ဘူ-တာ။ မဟာနိ။၉၇။ စက္ခုဝိညာဏေန အဘိ-သမ္ဘူတာ ရာသိကတာ ဒိဋ္ဌာ စတုသမုဋ္ဌာနိ-ကာ ရူပါ။ သောတဝိညာဏသမ္ဘူတာတိ.... သဒ္ဒါ။ မဟာနိ၊ဋ္ဌ။၂၂၀။

**အဘိသမ္ဘောတဗ္ဗ** (တိ) [အဘိ+သံ+ဘူ+တဗ္ဗ] လွှမ်းမိုး–နိုင်နင်း–အပ်သော။ အထာပရာနိပိ အတ္ထိ အဘိသမ္ဘောတဗ္ဗာနိ (မဟာနိ။ ၃၇၇)တိ အပရာနိပိ မဒ္ဒိတဗ္ဗာနိ အတ္ထိ။ မဟာနိ၊ဋ္ဌ။၄၀၄။

**အဘိသမ္ဘောတိ** (ကြိ) အဘိသမ္ဘဝတိ-ကြည့်။

**အဘိသမ္ဘောတုံ** (ကြိ၊ဝိ) [အဘိ+သံ+ဘူ+တုံ] အဘိသမ္ဘဝိတုံ-နှင့် အနက်တူ။ ၎င်း (ခ) အနက် ကြည့်။

**အဘိသမ္ဘောန္တ** (တိ) [အဘိ+သံ+ဘူ+အန္တ၊ ထိ-၌ အဘိသမ္ဘောန္တီ] အဘိသမ္ဘဝန္တ-နှင့် အနက်တူ။ ၎င်း ကြည့်။

**အဘိသမ္ဘောန္တိ** (ကြိ) အဘိသမ္ဘဝတိ-ကြည့်။

**အဘိသမ္ဘောမ** (ကြိ) အဘိသမ္ဘဝတိ (ဇာ၊၁။ ၁၁၆။) ကြည့်။

**အဘိသမ္ဘောသိ** (ကြိ) အဘိသမ္ဘဝတိ-ကြည့်။

**အဘိသမ္မတ**¹ (တိ) [အဘိ+သံ+မန+တ] အလွန်ကောင်းစွာ – ကြံ–သိ – ဆင်ခြင်– မှတ်ထင်–ယုံကြည်–အပ်သော။(က) ချီးမွမ်းအပ် – နှစ်သက်အပ် – သော၊ "ချိုမြိန်ကောင်းမြတ် သည်"ဟု–ချီးမွမ်းအပ် – နှစ်သက်အပ်–သော။ (ခ) ဂုဏ်မြင့်အပ်–သိဒ္ဓိတင်အပ်–သော။ (ဂ) အရိုအသေပြုအပ်– ခေါ်ဝေါ် – သမုတ်–အပ်–သော။ (ဃ)ထင်ရှား–ကျော်စော–သော။ (င) မှတ်ထင်အပ်–ယုံကြည်အားထားအပ်–သော။ (က) နာဠိကေရဠ္ဌ ပါဒါသိ၊ ခဇ္ဇကံ အဘိသမ္မတံ။ အပ၊၁။၂၀၂။ ခဇ္ဇကံ အဘိသမ္မတန္တိ ခါဒိတဗ္ဗံ ခဇ္ဇကံ အဘိဝိသေသေန မဓုသက္ကရာဒီဟိ သမ္မိဿံ ကတ္ဂာ နိပ္ဖါဒိတံ သုန္ဒရံ မဓုရန္တိ သမ္မတံ ဉာတံ အဘိသမ္မတံ ခဇ္ဇကဥ္စ အဒါသိန္တိ အတ္ထော။ အပ၊ဋ္ဌ၊၂။၁၇၁။ (ခ) မနုဿတ္တံ ဒေဝါနံ အဘိသမ္မတံ။ ဣတိဝုတ်၊ဋ္ဌ။၂၄၄။ (ဂ) "ပါပပဝါဟန"န္တိ အဘိသမ္မတေ ဂယာ- တိတ္ထေ။ ထေရ၊ဋ္ဌ၊၂။၅၆။ (ဃ) ကုလပဒေ- သသီလာစာရာဒိဂုဏေဟိ အဘိသမ္မတဿ။ ထေရီ၊ဋ္ဌ။၂၆၇။ (င) မင်္ဂလံ အဘိဝုဍ္ဎိကာရဏန္တိ အဘိသမ္မတံ ဇနေဟိ။ စရိယာ၊ဋ္ဌ။၃၆။

**အဘိသမ္မတ**² (ပု) [အဘိ+သံ+မန+တ] နှစ်သက်–လေးမြတ်–အပ်သော–အဘိသမ္မတ အမည်ရှိသော၊သူ။ (လွန်ခဲ့သော ကိုးဆယ့်လေးကမ္ဘာထက်က သိဒ္ဓတ္ထဘုရားရှင်အား ပန်းပူဇော်ခဲ့၍ သုဂတိဘုံတို့၌သာ ချမ်းသာကောင်းကျိုး အမျိုးမျိုးကို ခံစားပြီးလျှင် ဤ ဘုရားရှင် လက်ထက်တော်၌ ရဟန္တာဖြစ်သွားသော ကဏ္ဏဝေရပုပ္ဖိယ ထေရ်၏ အလောင်းဖြစ်သော ဘုရင့် – နန်းတော် – အတွင်းဆောင်–မှူး၏ အမည်။) ရညော အန္တေပုရေ အာသိံ၊ ဂေါပကော အဘိသမ္မတော။ အပ၊၁။၂၀၁။ ရညော အန္တေပုရပါလကော အဟောသိ။ အပ၊ဋ္ဌ၊၁။၁၇၀။

**အဘိသမ္မတက** (ပု) [အဘိသမ္မတ+က] အဘိသမ္မတ-အမည်ရှိသော။ အဘိသမ္မတကော ဂယှ၊ အမ္ဗရေ ဟာသိ မေ ဓဇံ။ အပ၊၁။၈၁။ အဘိသမ္မတနာမက-လည်း ကြည့်။

**အဘိသမ္မတနာမက** (တိ) [အဘိသမ္မတ+နာမက] အဘိသမ္မတအမည်ရှိသော၊သူ။ (က) အဘိသမ္မတအမည်ရှိသော နတ်ဘီလူးစစ်သူကြီး၊ လူ, နတ်, နဂါး, ဂဠုန်, ကုမ္ဘဏ်,ယက္ခတို့သည် ပဒုမုတ္တရ မြတ်စွာဘုရား၏ ခါတ်တော်ကို ဌာပနာ၍ ဉာဏ်တော် ခုနစ်ယူဇနာအမြင့်ရှိ ရတနာ ခုနစ်ပါးဖြင့်ပြီးသော စေတီကို တည်ကြသည်။ ယင်း စေတီတော်အား ပူဇော်သောပစ္စည်းများကို စောင့်ရှောက်ရန် အဘိသမ္မတအမည်ရှိသော နတ်ဘီလူးစစ်သူကြီးကို ခန့်ထားကြသည်။ အရှင်ဥပဝါဏ မထေရ်အလောင်း ဆင်းရဲသား လူသော အလံကို အဘိသမ္မတနတ်ဘီလူး စစ်သူကြီးသည် ကိုယ်ရောင်ဖျောက်လျက် စေတီတော်

ကို သုံးကြိမ်လကျ်ာရစ်ပူဇော်ပေးသည်။ (ခ) အဘိသမ္မတအမည်ရှိသော စကြဝတေးမင်း။ အရှင်ပါဠိလိပုပ္ပိယမထေရ်အလောင်း သူဌေးသားသည် ဤကမ္ဘာမှ ရှေး ကိုးဆယ့်နှစ်ကမ္ဘာထက်၌ အရှင် တိဿ မြတ်စွာဘုရားအား သခွတ်ပန်းလှူဒါန်းခဲ့ဘူးသောကြောင့် ခြောက်ဆယ့်သုံးကမ္ဘာထက်၌ အဘိသမ္မတအမည်ရှိသော စကြဝတေးမင်းဖြစ်လာသည်။ (က) ဒွေဝေဟိ ဌပိတော ယက္ခော၊အဘိသမ္မတနာမကော။ အပ၊၁။၇၀။ အပ၊၂။၁၇၁။ (–အပ၊ဋ္ဌ၊၂။၃၇။ ထေရ၊ဋ္ဌ၊၁။၃၉၃။) (ခ) ဣတော တေသဋ္ဌိကပ္ပမှိ၊ အဘိသမ္မတနာမကော။ အပ၊၁။၁၃၆။

**အဘိသမ္မတဘာဝ** (ပု) [အဘိသမ္မတ+ဘာဝ] သမုတ်အပ်သည်၏ အဖြစ်၊ ယုံကြည်အားကိုးရသည်၏အဖြစ်။ "ဝစီကာရဏ"န္တိ အဘိသမ္မတဘာဝေန။ ဒီ၊ဋီ၊၂။၆၇။ မ၊ဋီ၊၃။၃၇။ အံ၊ဋီ၊၃။၂၂၂။

**အဘိသမ္မာဂန္တဗ္ဗဋ္ဌ** (ပု) [အဘိ+သမ္မာ+ဂန္တဗ္ဗ+အတ္ထ] ရှေးရှု ကောင်းစွာ – ရောက်အပ်– ထိုးထွင်း၍သိအပ် – သော အနက်သဘော။ အဘိသမယဋ္ဌ-ကြည့်။

**အဘိသမ္မုခဋ္ဌာန** (န) [အဘိသမ္မုခ + ဌာန] မျက်နှာမူရာ – မျက်နှာရှေ့တည့်တည့် – ရင်ပြင်–အရပ်။ ဣမဿ ပန အာရာမဿ အဘိသမ္မုခဋ္ဌာနေ တတော မဟာဥဒကရဟဒေါ ဇာတော။ မ၊ဋ္ဌ၊၄။၁၇၃။

**အဘိသမ္မုခဘာဝ** (ပု) [အဘိသမ္မုခ+ဘာဝ] ရှေးရှု–မျက်မှောက်–၏အဖြစ်။အဘိသခ်တကြည့်။

**အဘိသရ** (ပု) [အဘိ+သရ+အ] အခြံအရံ၊ ကိုယ်ရံတော်။ (က) ကိုယ်ရံတော်–တပ်–တပ်သား။ စောင့်ရှောက်ရန် ဝန်းရံလိုက်ပါသော လက်နက်ကိုင်လူစု ပရိသတ်။ (ခ) အတူသွားအတူလာ၊ သွားဖော် လာဖက်၊ အပေါင်းအသင်း၊ ရောင်းရင်းဘက်၊ အဖော်သဟဲ။ (က) နှ တေ အဘိသရံ ပဿေ၊ .... နှ မေ အဘိသရေန်'တ္တော။ ဇာ၊၂။၉၄-၅။ အဘိသရန္တိ ရက္ခဏတ္ထာယ ပရိဝါရေတွာ ဌိတံ အာဝုဓဟတ္ထံ ပရိသံ။ အဘိသရေနာတိ အာရက္ခပရိဝါရေန။ ဇာ၊ဋ္ဌ၊၅။၃၉၇-၈။ (ခ) အနုပ္ပလပေါ် အဘိသရောပိ။ မဉ်၊ဋီ။၃၈၀။

**အဘိသရဏ** (န) [အဘိ+သရ+ယု] သွားသော၊သူ။ အဘိသာရိကာ-ကြည့်။ တဏှာဘိသရဏ (ဉဒါန၊ဋ္ဌ။၁၈၆)နှင့် ယှဉ်ကြည့်။

**အဘိသရဏတာ** (ထီ) [အဘိသရဏ + တာ] သွားသည်၏ – သွားသောသူ၏ – အဖြစ်။ အဘိသာရိကာ-ကြည့်။

**အဘိသရတိ** (ကြိ) [အဘိ+သရ+အ+တိ] (၁) အနီးသို့သွား၏၊ ချဉ်းကပ်၏၊ အနီးသို့သွား၍–ချဉ်းကပ်၍–သက်သာရာရစေ၏။ (၂) တိုးပွါး၏၊ တိုးပွါးခြင်းအားဖြင့် ဖြင်၏။ (၁) အဘိသရဏ-ကြည့်။ (၂) အဘိသရန္တိ ဝဍ္ဎန္တိ။ မ၊ဋ္ဌ၊၃။၂၉၃။ အဘိသရန္တီတိ အဘိဝဍ္ဎနဝသေန ပဝတ္တန္တိ တေနာဟ "ဝဍ္ဎန္တီ"တိ။ မ၊ဋီ၊၃။၁၉၇။

**အဘိသရန္တိ** (ကြိ) [အဘိ+သရ+အ+အန္တိ] တိုးပွါးကုန်၏၊ တိုးပွါးခြင်းအားဖြင့် ဖြစ်ကုန်၏။ အဘိသရတိ (၂) ကြည့်။

**အဘိသရိတွာ** (ကြိ၊ဝိ) [အဘိ+သရ+တွာ] အနီးသို့ သွား၍၊ ချဉ်းကပ်၍။ အနဘိဿရ-ကြည့်။

**အဘိသလ္လေခ** (ပု) [အဘိ+သံ+လိခ+ဏ] ကိလေသာတို့ကို လွန်စွာ ခေါင်းပါးစေတတ်သော (အပ္ပိစ္ဆတာ-စသော ဂုဏ်)။ အဘိသလ္လေခိက-ကြည့်။

**အဘိသလ္လေခက** (တိ) [အဘိ+သံ+လိခ+ဏျ] အဘိသလ္လေခ-နှင့် အနက်တူ။ အဘိသလ္လေ-

